မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက - ၆(ခ)/မ - ၁၄၉၈/ ၂၀၁၀ (၁၄၉၂၇)

**ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင်လီမိတက်(The Union of Myanmar Economic Holdings Ltd.)မှ ရန်ကုန်- ပြည်-မကွေး လမ်းအပိုင်းတွင် B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံ ခြင်းလုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ။**

**အကျဉ်းချုပ်။** ။ မြန်မာကုမ္ပဏီဖြစ်သော ပြည်ထောင်စုမြန်မာနိုင်ငံ စီးပွားရေးဦးပိုင်လီမိတက် (The Union of Myanmar Economic Holdings Ltd.)မှ ရန်ကုန်- ပြည်-မကွေး လမ်းအပိုင်း ( ၃၄၀မိုင် ၊၂ ၃/၄ ဖာလုံ)ကို B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဗိုလ်ချုပ်ဝင်းသန်း (အဘ- ဦးသန်းဖေ) မှ ဆောက်လုပ်ရေးဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြုတင်ပြ လာခြင်း ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အား (၁-၉-၂၀၁၀) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၂၇/၂၀၁၀) အစည်းအဝေးသို့ တင်ပြခဲ့ရာ ရန်ကုန်- ပြည်-မကွေး လမ်းအပိုင်း အား B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

ကုန်သွယ်မှု မူဝါဒ ကောင်စီ အစည်းအဝေးမှ သဘောတူသဖြင့် အဆိုပါ လမ်းအပိုင်း ၏ လုပ်ငန်း ဆောင်ရွက်ခွင့်အား အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက် တင်ပြပေးပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တင်ပြလာပါသဖြင့် ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။

အဆိုပြု လမ်းအပိုင်းတွင် ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း မှ တည်ဆောက်ထားသည့် (၁၈၀)ပေအထက် တံတား(၁၂)စင်းတွင် တံတား(၁)စင်းနှင့်(၁)စင်း နီးကပ်ခြင်း၊ မြို့တွင်း နယ်နမိတ်အတွင်း ဖြစ်ခြင်း တို့ကြောင့် တံတား(၅)စင်းသာ သာမန်နှုန်းဖြင့် တံတားအသုံးပြုခ ကောက်ခံမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

အဆိုပြု လမ်းအပိုင်းတွင် အသွား/ အပြန် ခရီးစဉ်အတွက် အောက်ပါ နေရာများတွင် လမ်းအသုံးပြုခကောက်ခံမည် ဖြစ်ပါသည် -

(က) ထောက်ကြန့်

(ခ) အမှတ်(၄)လမ်းဆုံ

(ဂ) တိုက်ကြီး

ပုံစံ (မနသ - ၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ၇၆၁ / ၂၀၁၀ ။ ၂၀၁၀ ခုနှစ်၊ အောက်တိုဘာလ ၂၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဗိုလ်ချုပ်ဝင်းသန်း

(ခ) အဘ အမည် ဦးသန်းဖေ

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂ / ဒဂန(နိုင်) ၀၁၀၇၃၀

(ဃ) နေရပ်လိပ်စာ အမှတ်(၇၉)၊ မဟာဗောဓိရပ်ကွက်၊ ကမ်းနားလမ်း၊ မအူပင်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ပြည်ထောင်စု မြန်မာနိုင်ငံစီးပွားရေး ဦးပိုင်လီမိတက် ( The Union of Myanmar Economic Holdings Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား BOT စနစ်ဖြင့်လမ်းပြုပြင်ဖောက်လုပ်၍ လမ်းတံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ရန်ကုန်-ပြည်-မကွေးလမ်းအပိုင်း၊ ကိုးပင်-စမ်းမကြီး-သစ်ရာကောက်လမ်း၊ ပြည်မြို့ရှောင်လမ်းနှင့်အမှတ်(၄)လမ်းမကြီး(စုစုပေါင်း၃၄၀ မိုင်၊ ၂ဘို့ဖာလုံ)

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၆၅၅၁၂.၁၀(သန်း) ( ကျပ်သန်းပေါင်း ခြောက်သောင်း၊ငါးထောင်၊ ငါးရာ၊ တစ်ဆယ့်နှစ် နှင့် တစ်သိန်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၄၄ /၂၀၁၀ (မနသ)

နေပြည်တော်၊ ၁၃၇၂ ခုနှစ် ၊သီတင်းကျွတ်လဆန်း၁၄ ရက်

(၂၀၁၀ ခုနှစ် ၊အောက်တိုဘာ လ ၂၂ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက် (The Union of Myanmar Economic Holdings Ltd.) မှ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းပိုင် ရန်ကုန် - ပြည် - မကွေး လမ်းအပိုင်း (မိုင်တိုင် ၂၂/၃ မှ ၃၃၁/၀ ထိ)(၃၀၈ မိုင် ၅ ဖာလုံ )၊ ကိုးပင် - စမ်းမကြီး - သစ်ရာကောက်လမ်း (၁၉ မိုင် ၃ ဖာလုံ)၊ ပြည်မြို့ရှောင်လမ်း (၅ မိုင် ၆½ဖာလုံ ) နှင့် အမှတ် (၄)လမ်းမကြီး (၆ မိုင် ၄ ဖာလုံ ) [စုစုပေါင်း ၃၄၀ မိုင်၊ ၂½ ဖာလုံ]တို့ကို B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် အဆိုပြုချက်အား (၁၈-၆-၂၀၁၀) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင် ၏ (၂၀/၂၀၁၀) အစည်းအဝေး၌ တင်ပြ စိစစ်ခဲ့ပါသည်။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၁-၉-၂၀၁၀)နေ့တွင် ကျင်းပ သော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏(၂၇/၂၀၁၀) အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ (၇-၁၀-၂၀၁၀) နေ့တွင် ကျင်းပ ပြုလုပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၃၉/၂၀၁၀)အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက် (The Union of Myanmar Economic Holdings Ltd.) အား ရန်ကုန် - ပြည် - မကွေး လမ်းအပိုင်း ၊ ကိုးပင် - စမ်းမကြီး - သစ်ရာကောက်လမ်း၊ ပြည်မြို့ရှောင်လမ်း နှင့် အမှတ် (၄)လမ်းမကြီး တို့ တွင် BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၇၆၁/၂၀၁၀ ကို ထုတ်ပေး လိုက်သည်။

၂။ ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက် (The Union of Myanmar Economic Holdings Ltd.) အနေဖြင့် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာ နိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သော နှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။ ဥပဒေပုဒ်မ ၁၃ မှ အောက် ဖော်ပြပါ အခွန် ကင်းလွတ် ခွင့် နှင့် သက်သာခွင့် များကို ခံစားခွင့် ပြုနိုင် ရန် ဤအမိန့် ကြော်ငြာစာ ကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ၁၃(ဂ)အရ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး သည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေ ကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ် သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြ လျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ် ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

၄။ ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက် (The Union of Myanmar Economic Holdings Ltd.) သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်ကို အနိမ့်ဆုံး ရည်မှန်းချက် အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက် (The Union of Myanmar Economic Holdings Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိ ရမည်။

၆။ ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက် (The Union of Myanmar Economic Holdings Ltd.) သည် ရန်ကုန် - ပြည် - မကွေး လမ်းအပိုင်း ၊ ကိုးပင် - စမ်းမကြီး - သစ်ရာကောက်လမ်း၊ ပြည်မြို့ရှောင်လမ်း နှင့် အမှတ် (၄)လမ်းမကြီး တို့အား BOT စနစ်ဖြင့် ဆောင်ရွက်ရာတွင် ဆောက်လုပ် ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ချုပ်ဆိုမည့် BOT ပဋိညာဉ် စာချုပ်ပါ သတ်မှတ်ချက် စည်းမျဉ်း စည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက် (The Union of Myanmar Economic Holdings Ltd.) တို့ ချုပ်ဆိုမည့် ရန်ကုန် - ပြည် - မကွေး လမ်းအပိုင်း ၊ ကိုးပင် - စမ်းမကြီး - သစ်ရာကောက်လမ်း၊ ပြည်မြို့ရှောင်လမ်း နှင့် အမှတ် (၄)လမ်းမကြီး တို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လုပ်ငန်း လုပ်ကိုင်ရေး ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုးပြီးသည့် အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅)စောင် ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့တင်ပြရ မည်။

၈။ ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက် (The Union of Myanmar Economic Holdings Ltd.) မှ ရန်ကုန် - ပြည် - မကွေး လမ်းအပိုင်း ၊ ကိုးပင် - စမ်းမကြီး - သစ်ရာကောက်လမ်း၊ ပြည်မြို့ရှောင်လမ်း နှင့် အမှတ် (၄)လမ်းမကြီး တို့အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း သက်တမ်းမှာနှစ်(၄၀) ဖြစ်သည်။ လမ်းဖောက်လုပ်သည့် လုပ်ငန်း ကာလ (၃)နှစ်အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ သို့မဟုတ် လုပ်ငန်းအပြီးသတ် ဆောင်ရွက် ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ရက်ကာလမှ စတင် သတ်မှတ်ရမည် ။

၉။ လမ်း၊ တံတား အသုံးပြုခ ရငွေ အပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည်။

| | | | |
|---|---|---|---|
| (က) | ပထမ (၃)နှစ် အတွက် | - | ကင်းလွတ်ခွင့်ကာလ |
| (ခ) | (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် | - | ၅% ပေးသွင်းရန် |
| (ဂ) | (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် | - | ၁၀% ပေးသွင်းရန် |
| (ဃ) | (၂၄)နှစ်မြောက်မှ(၃၃)နှစ်မြောက်အထိ(၁၀)နှစ် | - | ၁၅% ပေးသွင်းရန် |
| (င) | (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ(၇)နှစ် | - | ၂၀% ပေးသွင်းရန် |

၁၀။ လုပ်ငန်း လုပ်ကိုင် ခွင့်ပြုသည့်ကာလများ ပြီးဆုံးပါက အဆိုပါ လမ်းနှင့် တံတား များ၊ ဂိတ်များနှင့် အဆောက်အဦများကို ဆောက်လုပ် ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မပါရှိဘဲ လွှဲပြောင်း ပေးရမည်။

၁၁။ ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက် (The Union of Myanmar Economic Holdings Ltd.) မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်

သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၂။ ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက် (The Union of Myanmar Economic Holdings Ltd.) သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေ ကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက် (The Union of Myanmar Economic Holdings Ltd.) သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင် အထည် ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ / အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန်ပေးပို့အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပမာဏ၊ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင် သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၅။ ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက် (The Union of Myanmar Economic Holdings Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့် ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၆။ ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက် (The Union of Myanmar Economic Holdings Ltd.) သည် အဆိုပြုလမ်း အပိုင်း တရားဝင် ဖွင့်လှစ်သည့် နေ့ရက် နှင့် စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက် တို့ကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား

အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

(မောင်မောင်သိမ်း)

ဥက္ကဌ

စာအမှတ်၊ရကာ- ၆(က) /မ-၁၀၇၆/၂၀၁၀(၁၃၂၇၆-က)

ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ အောက်တိုဘာ လ ၂၂ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရ အဖွဲ့ရုံး။

၄။ ရန်ကုန်တိုင်းဒေသကြီး အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး ၊ ရန်ကုန်မြို့။

၅။ ပဲခူးတိုင်းဒေသကြီး အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး ၊ တောင်ငူမြို့။

၆။ မကွေးတိုင်းဒေသကြီး အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး ၊ မကွေးမြို့။

၇။ စာရင်းစစ်ချုပ်ရုံး။

၈။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၉။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၁၀။ အလုပ်သမား ဝန်ကြီးဌာန။

၁၁။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၂။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၃။ ဆောက်လုပ်ရေးဝန်ကြီးဌာန။

၁၄။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၁၅။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၆။ ပြည်ထဲရေးဝန်ကြီးဌာန။

၁၇။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၈။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၅။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၈။ အုပ်ချုပ်မှုဒါရိုက်တာ၊ ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင် လီမိတက် (The Union of Myanmar Economic Holdings Ltd.)

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ) / မ-၁၄၉၈/၂၀၁၀(၁၂၆၅၁)
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဩဂုတ်လ ၂၇ ရက်။

**ကုန်သွယ်မှု မူဝါဒကောင်စီသို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ ။ ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင်လီမိတက်(The Union of Myanmar Economic Holdings Ltd.)မှ ရန်ကုန်- ပြည်-မကွေး လမ်းအပိုင်းတွင် B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံ ခြင်းလုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင်လီမိတက်(The Union of Myanmar Economic Holdings Ltd.) မှ အောက်ပါ ရန်ကုန်- ပြည်-မကွေး လမ်းအပိုင်း (၃၄၀ မိုင် ၂½ ဖာလုံ) ကို B.O.T စနစ် ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဗိုလ်ချုပ်ဝင်းသန်း (အဘ- ဦးသန်းဖေ) မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြု တင်ပြလာ ခြင်း ဖြစ်ပါသည်။ လုပ်ငန်း တည်နေရာပြပုံ ပူးတွဲ တင်ပြထားပါသည်။

| | | | |
|---|---|---|---|
| (က) ရန်ကုန်-ပြည်-မကွေးလမ်းအပိုင်း (မိုင်တိုင်အမှတ် ၂၂/၃ မှ ၃၃၁/၀ ထိ) | ၃၀၈ မိုင် | ၅ | ဖာလုံ |
| (ခ) ကိုးပင်-စမ်းမကြီး-သစ်ရာကောက်လမ်း | ၁၉ မိုင် | ၃ | ဖာလုံ |
| (ဂ) ပြည်မြို့ရှောင်လမ်း | ၅ မိုင် | ၆½ | ဖာလုံ |
| (ဃ) အမှတ်(၄)လမ်းမကြီး | ၆ မိုင် | ၄ | ဖာလုံ |
| စုစုပေါင်း | ၃၄၀ မိုင် | ၂½ | ဖာလုံ |

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အား (၁၈-၆-၂၀၁၀) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀/၂၀၁၀) အစည်းအဝေးသို့ တင်ပြခဲ့ရာ " တံတား အမျိုးအစား အလိုက် အသုံးပြုခ ကောက်ခံသည့်နှုန်း သတ်မှတ်ပေးရန်နှင့် ဌာနမှ တည်ဆောက်သည့် တံတား၊ ကုမ္ပဏီ မှ တည်ဆောက်သည့်တံတားများ စာရင်းကို ပြန်လည်စိစစ်ပြီး ကုန်သွယ်မှု မူဝါဒကောင်စီ သို့ တင်ပြ လမ်းညွှန်မှုခံယူရန်" ဆုံးဖြတ်ချက်အရ ဆောက်လုပ်ရေးဝန်ကြီးဌာန မှ တင်ပြလာခြင်း ဖြစ်ပါသည်။

၃။ အဆိုပြု လမ်းအပိုင်းတွင် ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း မှ တည်ဆောက်ထားသည့် အောက်ပါ (၁၈၀)ပေအထက် တံတား(၁၂)စင်းတွင် တံတား(၁)စင်းနှင့်(၁)စင်း နီးကပ်ခြင်း၊ မြို့တွင်း နယ်နမိတ်အတွင်း ဖြစ်ခြင်း တို့ကြောင့် တံတား(၅)စင်းသာ သာမန်နှုန်းဖြင့် တံတားအသုံးပြုခ ကောက်ခံမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း ၏ တံတား အသုံးပြုခနှုန်းကို နောက်ဆက်တွဲ(က)ဖြင့် တင်ပြအပ်ပါသည်။

(၁၈၀) ပေ အထက် တံတားကြီးများ တည်ဆောက်ထားမှုနှင့် အသုံးပြုခ ကောက်ခံမှုအခြေအနေ

| စဉ် | | တံတားအမည် | မှတ်ချက် |
|---|---|---|---|
| ၁။ | | ဌာနမှ တည်ဆောက်သည့် တံတား | |
| | ၁ | တံတားအမှတ် ၄/၇၇<br>သုံးဆယ်တံတား (၃၀၀') | တံတားအသုံးပြုခမကောက်ခံပါ။ |
| | ၂ | တံတားအမှတ် ၃/၈၉<br>ကျွန်းကလေးတံတား (၂၂၀') | (၁)သာမန်နှုန်းဖြင့်ကောက်ခံပါသည်။ |
| | ၃ | တံတားအမှတ် ၂/၁၄၀<br>ဘိုးသာအောင်ကုန်းတံတား (၂၅၀') | တံတားအသုံးပြုခမကောက်ခံပါ။ |
| | ၄ | တံတားအမှတ် ၆/၁၄၈<br>ဝက်ပုတ်တံတား (၁၈၀') | တံတားအသုံးပြုခမကောက်ခံပါ။ |
| | ၅ | တံတားအမှတ် ၁/၁၈၅ (၂၁၅.၇၅') | တံတားအသုံးပြုခမကောက်ခံပါ။ |
| | ၆ | တံတားအမှတ် ၄/၂၁၂ (၁၇၇၀')<br>ဘွက်ကြီးတံတား (စီမံကိန်းဝင်တံတား) | (၂)သာမန်နှုန်းဖြင့်ကောက်ခံပါသည်။ |
| | ၇ | တံတားအမှတ်(၂/၂၂၇) (၂၇၆') | တံတားအသုံးပြုခမကောက်ခံပါ။ |
| | ၈ | တံတားအမှတ်(၄/၂၅၃) (၄၃၆')<br>ကိုးပင်တံတား | (၃)သာမန်နှုန်းဖြင့်ကောက်ခံပါသည်။ |
| | ၉ | တံတားအမှတ်(၁/၂၆၈) (၂၆၅') | တံတားအသုံးပြုခမကောက်ခံပါ။ |
| | ၁၀ | တံတားအမှတ်(၄/၂၉၂) (၆၄၂') <br>ကုက္ကိုခွတံတား | (၄)သာမန်နှုန်းဖြင့်ကောက်ခံပါသည်။ |
| | ၁၁ | တံတားအမှတ်(၁/၂၉၃) (၂၄၀')<br>တောင်ဦးချောင်းတံတား | တံတားအသုံးပြုခမကောက်ခံပါ။ |
| | ၁၂ | တံတားအမှတ်(၄/၃၁၇) (၄၈၀')<br>ယင်းချောင်းတံတား | (၅)သာမန်နှုန်းဖြင့်ကောက်ခံပါသည်။ |

၄။ အဆိုပြု လမ်းအပိုင်းတွင် အသွား/ အပြန် ခရီးစဥ်အတွက် အောက်ပါ မြို့/ နေရာများ တွင် တစ်ဂိတ်စီထား၍ လမ်းအသုံးပြုခကောက်ခံမည် ဖြစ်ပါသည် -

(က) ထောက်ကြန့်

(ခ) အမှတ်(၄)လမ်းဆုံ

(ဂ) တိုက်ကြီး

(ဃ) သာယာဝတီ

(င) နတ်တလင်း

(စ) ပြည်

(ဆ) အောင်လံ

(ဇ) ကုက္ကိုခွ

(ဈ) သစ်ရာကောက်

(ည) မကွေး

၅။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းနှင့် ကုမ္ပဏီတို့ ချုပ်ဆိုမည့် ပဋိညာဥ်စာချုပ် (မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေးကာလ)မှာ (၃) နှစ် ဖြစ်ပါသည်။

(ခ) လုပ်ငန်း သက်တမ်းကာလမှာ နှစ်(၄၀) ဖြစ်ပြီး နှစ်ဖက်သဘောတူပါက တစ်ကြိမ်လျှင်(၅) နှစ်စီဖြင့် (၃)ကြိမ် တိုးမြှင့်နိုင်သည်။ လုပ်ငန်းသက်တမ်းကာလကို လမ်းဖောက်လုပ်သည့် လုပ်ငန်း ကာလ (၃)နှစ် အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ ရက် ကာလ မှ စတင် သတ်မှတ်မည် ဖြစ်ပါသည်။

(ဂ) အဆိုပြု ကုမ္ပဏီမှ အောက်ပါ လမ်းအသုံးပြုခ နှုန်းများ အတိုင်း ကောက်ခံမည် ဖြစ်ပါသည်။

| စဥ် | ယာဥ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဥ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဥ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဥ်ကြီး များ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်အထိကုန်တင်ယာဥ်ကြီး များ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈ ကျပ် ၂၆ ပြား |

(ဃ) တံတားအသုံးပြုခများကို ပေ (၁၈၀) နှင့် အထက် ရှည်သည့် တံတားများ အတွက် နိုင်ငံတော်မှ တည်ဆောက်ထားသော တံတားများအား လေလံစနစ်ဖြင့် ကောက်ခံ ရမည် ဖြစ်ပါသည်။

(င) လမ်းအသုံးပြုခ ရငွေအပေါ် ခွင့်ပြုကာလ အပိုင်းအခြားအလိုက် အောက်ပါသတ် မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါ သည်။

(၁; ပထမ (၃)နှစ် အတွက် ------ကင်းလွတ်ခွင့်ကာလ

(၂) (၄) နှစ်မြောက်မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် ------၅% ပေးသွင်းရန်

(၃) (၁၄) နှစ်မြောက်မှ (၂၃)နှစ်မြောက်အထိ(၁၀)နှစ် ------၁၀% ပေးသွင်းရန်

(၄) (၂၄) နှစ်မြောက်မှ (၃၃)နှစ်မြောက်အထိ (၁၀)နှစ် ------၁၅% ပေးသွင်းရန်

(၅) (၃၄) နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ (၇)နှစ် ------၂၀%ပေးသွင်းရန်

* B.O.T နှစ်လေးဆယ် ပြည့်ပြီးနောက် သက်တမ်းတိုးခွင့် ရရှိပါက နိုင်ငံတော်မှ သတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်းပေးသွင်းရမည် ဖြစ်ပါသည်။

(စ) လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် ဘဏ်အာမခံကြေးငွေ အဖြစ် စာချုပ် ချုပ်ဆိုပြီး (၃၀)ရက် အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသော ငွေကိုထားရှိပေးရမည်။ ယင်းသက်တမ်းသည် စတင်ထုတ်ပေးသည့်နေ့မှ လုပ်ငန်း ပြီးဆုံးအောင် ဆောင်ရွက်သည် အထိ ဖြစ်သည်။ လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းစတင်ရန် အကြောင်းကြားစာရပြီး ရက် (၃၀) အတွင်း လုပ်ငန်းစတင်ရန် ပျက်ကွက်လျှင် သော်လည်းကောင်း၊ သတ်မှတ်ကာလအတွင်း လုပ်ငန်းကို ပြီးစီး အောင်ဆောင်ရွက် ရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် ပျက်ကွက်ပါက ဘဏ်အာမခံငွေ ကို ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း မှ သိမ်းယူ ရမည်ဖြစ်သည်။ ဘဏ်အာမခံငွေကို လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးပြီး ရက်ပေါင်း (၃၀) အတွင်း လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသို့ ပြန်လည် ထုတ်ပေးရမည်။

(ဆ) အဆိုပြုကုမ္ပဏီသည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံလုပ်ကိုင်ခွင့် မပြုရပါ။

(ဇ) လုပ်ငန်းစတင်သည့်နေ့သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ (ဌာန) မှ လုပ်ငန်း စတင် ရန် လုပ်ငန်း လုပ်ကိုင်ခွင့်ရသူ (ကုမ္ပဏီ) သို့ အကြောင်းကြားသည့် နေ့ ဖြစ် သည်။(၁-၄-၂၀၀၈)နေ့ကို လုပ်ငန်းစတင်သည့် နေ့သတ်မှတ်သည်။

(ဈ) လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့် ကာလနှစ်(၄၀)သို့မဟုတ်နောက်ထပ်တိုးမြှင့် ကာလများ ပြီးဆုံးပါက အဆိုပါလမ်းနှင့် တံတားများ၊ ဂိတ်များနှင့် အဆောက်အဦများကို ဆောက်လုပ် ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထား အတိုင်း ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာမရှိဘဲ လွှဲပြောင်းပေးရမည် ဖြစ်ပါသည်။

၆။ လုပ်ငန်းအဆိုပြုချက်အား နောက်ဆက်တွဲ(ခ) ဖြင့် တင်ပြအပ်ပါသည်။ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုပမာဏမှာ စုစုပေါင်း ကျပ် (၆၅၅၁၂.၁၀) သန်း ဖြစ်ပါသည်။

| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၆၅၅၁၂.၁၀ သန်း |
|---|---|
| (က) ငွေပမာဏ | ၂၁၈၅၃.၀၀ |
| (ခ) လမ်းဖောက်လုပ်ခြင်း | ၄၃၀၃၈.၆၁ |
| (ဂ) တံတားတည်ဆောက်ခြင်း | ၆၂၀.၄၉ |

၇။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် (၇)နှစ်မြောက် တွင် ရရှိမည့် လမ်း အသုံးပြုခ ကောက်ခံရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | (ကျပ်သန်း) |
|---|---|
| (က) ဝင်ငွေ | ၂၈၈၇.၈၉ |
| (ခ) အသုံးစရိတ် | ၂၆၈၅.၆၄ |
| (ဂ) အသားတင်အမြတ် | ၂၀၂.၂၅ |

၈။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ဝင်ငွေခွန် ကျပ် (၈၆.၆၈) သန်း နှင့် လမ်းဖြတ်သန်းခရငွေ ကျပ် (၁၄၄.၃၉) သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း ၏ အရင်းကြေကာလ မှာ (၃၀)နှစ် နှင့် (၃)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁.၅)ရာခိုင်နှုန်းဖြစ်ပါသည်။ပြည်တွင်းမှ လုပ်သား (၈၁၈)ဦး အလုပ်အကိုင် ရရှိ မည် ဖြစ်ပါ သည်။

၉။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့် ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၁၀။ ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင်လီမိတက် ( The Union of Myanmar Economic Holdings Ltd.) မှ ရန်ကုန်- ပြည်-မကွေး လမ်းအပိုင်း (၃၄၀ မိုင်၊ ၂ ၃/၂ ဖာလုံ )တွင် B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြု ရန် သဘောတူ - မတူ။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

၁၁။ ကုန်သွယ်မှု မူဝါဒကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( မောင်မောင်သိမ်း )

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး ၊ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန။

ကုန်သွယ်မှု မူဝါဒ ကောင်စီ

ဒါရိုက်တာနှင့် အစုရှင်များ ၏ အမည်နှင့် နေရပ်လိပ်စာ စာရင်း

| စဥ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ပြည်ထောင်စုမြန်မာနိုင်ငံ စီးပွားရေး ဦးပိုင်လီမိတက် ( The Union of Myanmar Economic Holdings Ltd.) | ၁။ ဒုတိယဗိုလ်ချုပ်ကြီးတင်အေး (ဥက္ကဌ) | ကာကွယ်ရေးပစ္စည်းထုတ်လုပ်မှု အရာရှိချုပ်၊ ကာကွယ်ရေးပစ္စည်း ထုတ်လုပ်မှု အရာရှိချုပ်ရုံး၊ ကာကွယ်ရေးဝန်ကြီးဌာန။ |
| | | ၂။ ဗိုလ်ချုပ်ဝင်းသန်း (မန်နေဂျင်းဒါရိုက်တာ) | ပစ္စည်းဝယ်ယူမှုညွှန်ကြားရေးမှူး၊ ပစ္စည်းဝယ်ယူမှုညွှန်ကြားရေးမှူးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။ |
| | | ၃။ ဒုတိယဗိုလ်ချုပ်ကြီးသိန်းထိုက် (အဖွဲ့ဝင်) | တပ်မတော်စစ်ဆေးရေးအရာရှိချုပ်၊ ကာကွယ်ရေးဝန်ကြီးဌာန။ |
| | | ၄။ ဗိုလ်ချုပ်လှရွှေ ( အဖွဲ့ဝင်) | တွဲဖက်စစ်ရေးချုပ်၊ ကာကွယ်ရေး ဝန်ကြီး ဌာန။ |
| | | ၅။ ဗိုလ်ချုပ်ခင်မောင်ထွန်း ( အဖွဲ့ဝင်) | တွဲဖက်စစ်ထောက်ချုပ်၊ ကာကွယ်ရေး ဝန်ကြီး ဌာန။ |
| | | ၆။ ဗိုလ်မှူးချုပ်သူရသက်ဆွေ ( အဖွဲ့ဝင်) | ဦးစီးအရာရှိချုပ်(ရေ)၊ ကာကွယ်ရေး ဦးစီးချုပ်ရုံး(ရေ)၊ ကာကွယ်ရေး ဝန်ကြီး ဌာန။ |
| | | ၇။ ဗိုလ်ချုပ်ခင်အောင်မြင့် ( အဖွဲ့ဝင် ) | ဦးစီးအရာရှိချုပ်(လေ)၊ ကာကွယ်ရေး ဦးစီး ချုပ်ရုံး(လေ)၊ ကာကွယ်ရေး ဝန်ကြီး ဌာန။ |
| | | ၈။ ဗိုလ်ချုပ်လှိုင်မြင့် ( အဖွဲ့ဝင်) | ညွှန်ကြားရေးမှူး(ငွေစာရင်းရုံး) ၊ ကာကွယ်ရေး ဝန်ကြီး ဌာန။ |
| | | ၉။ ဗိုလ်မှူးကြီးသိန်းဌေး(ငြိမ်း) ( အဖွဲ့ဝင်) | မန်နေဂျင်းဒါရိုက်တာ၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၊ ပို့ဆောင်ရေးဝန်ကြီးဌာန။ |
| | | ၁၀။ ဗိုလ်မှူးကြီးစံသောင်း(ငြိမ်း) ( အဖွဲ့ဝင်) | ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန၊ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။ |

| | | |
|---|---|---|
| ၁။ ကုမ္ပဏီ၏ တယ်လီဖုန်းအမှတ်/ ဖက်စ်နံပါတ် | - | ၀၁-၃၉၇၄၅၅၊ ၃၉၇၄၆၆၊ ၃၉၇၄၇၁ ၀၁-၃၉၇၄၅၄ |
| ၂။ ကုမ္ပဏီ၏ လိပ်စာအပြည့်အစုံ | - | အမှတ်၊၁၈၉/၁၉၁၊ မဟာဗန္ဓုလလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ |
| ၃။ ကုမ္ပဏီ၏ ဆက်သွယ်ရမည့်ပုဂ္ဂိုလ် အမည်/ရာထူး | - | ဗိုလ်ချုပ်ဝင်းသန်း (မန်နေဂျင်းဒါရိုက်တာ) |
| ၄။ ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်းများ | - | လုပ်ငန်းစုံ။ |
| ၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်ရက်စွဲ | - | ၂၈/၁၉၉၀-၉၁ (၂၇-၄-၁၉၉၀) |

လျှို့ဝှက်
၉

# ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ တံတားအသုံးပြုခနှုန်းထား
## (သာမန်တံတား)

| | | | |
|---|---|---|---|
| (က) | ဆိုင်ကယ်၊ မြင်းလှည်း၊ ထော်လာဂျီ | ၅ | ကျပ် |
| (ခ) | (၂)တန်အောက်ယာဉ်၊ အခြားယာဉ်များ၊ ကိုယ်ပိုင်ယာဉ်ငယ်များ | ၃၀ | ကျပ် |
| (ဂ) | ဟိုင်းလတ်ခရီးသယ်တင်ယာဉ် | ၄၀ | ကျပ် |
| (ဃ) | (၂)တန်အောက်ခရီးသယ်တင်ယာဉ် | ၄၀ | ကျပ် |
| (င) | (၂)တန်မှ (၅)တန်အောက်ယာဉ် | ၆၀ | ကျပ် |
| (စ) | (၅)တန်နှင့်အထက်ခရီးသယ်တင်ယာဉ် | ၁၀၀ | ကျပ် |
| (ဆ) | (၅)တန်နှင့်အထက်ယာဉ်ကြီး | ၁၅၀ | ကျပ် |
| (ဇ) | ထရပ်ကား (၂၀) တန် အထိ | ၁၅၀ | ကျပ် |

သို့/

ဦးကျော်ဒွန်း ( ညွှန်ကြားရေးမှူး) Fax - 406333

၁။ မြန်မာ့စီးပွားရေးဦးပိုင်ကုမ္ပဏီလီမိတက်
ရန်ကုန် - ပြည် - မကွေးလမ်း

| စဉ် | တံတားအမည် | ဆောက်လုပ်ရေးမှ တည်ဆောက်သော တံတား | ကုမ္ပဏီမှ တည်ဆောက်သော တံတား |
|---|---|---|---|
| (၁) | တံတားအမှတ် ၄/၇၇ (သုံးဆယ်တံတား) | - | ၃၀၀' |
| (၂) | တံတားအမှတ် ၃/၈၉ (ကျွန်းကလေးတံတား) | - | ၂၂၀' (သာမန်နှုန်း) |
| (၃) | တံတားအမှတ် ၂/၁၄၀ (ဘိုးသာအောင်ကုန်းတံတား) | - | ၂၅၀' |
| (၄) | တံတားအမှတ် ၆/၁၄၈ (ဝက်ပုတ်တံတား) | - | ၁၈၀' |
| (၅) | တံတားအမှတ် ၁/၁၈၅ | - | ၂၁၅.၇၅' |
| (၆) | တံတားအမှတ် ၄/၂၀၂ (ဘွက်ကြီးတံတား) | - | ၁၇၇၀' (သာမန်နှုန်း) |
| (၇) | တံတားအမှတ် ၂/၂၂၇ | ၂၇၆' | - |
| (၈) | တံတားအမှတ် ၄/၂၅၃ (ကိုးပင်တံတား) | - | ၄၃၆' (သာမန်နှုန်း) |
| (၉) | တံတားအမှတ် ၁/၂၆၈ | - | ၂၆၅' |
| (၁၀) | တံတားအမှတ် ၄/၂၉၂ (ကုက္ကိုခွတံတား) | - | ၆၄၂' (သာမန်နှုန်း) |
| (၁၁) | တံတားအမှတ် ၁/၂၉၃ (တောင်ဦးချောင်းတံတား) | ၂၄၀' | - |
| (၁၁) | တံတားအမှတ် ၄/၃၁၇ (ယင်းချောင်းတံတား) | - | ၄၈၀' (သာမန်နှုန်း) |

၂။ မုံရွာအုပ်စုဆောက်လုပ်ရေးကုမ္ပဏီလီမိတက်
မုံရွာ-ယာကြီး-ကလေးဝလမ်း

| | | | |
|---|---|---|---|
| (၁) | ချင်းတွင်းတံတား (မုံရွာ) | ၄၇၇၀.၂' (စီမံကိန်းဝင်နှုန်း) | - |

မှ

(ထွန်းသာ)
ဒု-အင်ဂျင်နီယာချုပ် (လမ်း)

D/MIC Fax

14948
30.7.10



# THE UNION OF MYANMAR ECONOMIC HOLDINGS LIMITED
ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေးဦးပိုင် လီမိတက်

Tel : 397453, 397458, 397409, 397471, 397472
Fax : 95-01-397454

No. 189/191, MAHABANDOOLA ROAD,
BOTATAUNG P.O. 11161
YANGON,
UNION OF MYANMAR.

*Reference No.* ၂/၃/အခရ/ပိုင် (၂၂၅၆/၂၀၁၀) Date ၂၀၁၀ ခုနှစ်၊ ဇူလိုင်လ ၃၀ ရက်

သို့

ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

အကြောင်းအရာ။ ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်အား ကုမ္ပဏီသက်တမ်းတိုးပေးနိုင်ပါရန် လျှောက်ထားခြင်း

၁။ ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်သည် ၁၉၅၀ ပြည့်နှစ် အထူးကုမ္ပဏီအက်ဥပဒေနှင့် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ၁၉၉၀ ပြည့်နှစ် ဧပြီလ ၂၇ ရက်နေ့တွင် ဖွဲ့စည်းတည်ထောင်ထားသော ကုမ္ပဏီဖြစ်ပြီး ကုမ္ပဏီမှတ်ပုံတင်အမှတ် ၂၈/၁၉၉၀-၁၉၉၁ ဖြစ်ပါသည်။ လုပ်ငန်းများအား နိုင်ငံတော်နှင့် စစ်မှုထမ်းများ/စစ်မှုထမ်းဟောင်းများ၊ ၎င်းတို့အဖွဲ့အစည်းများမှထည့်ဝင်သော အစုရှယ်ယာငွေများဖြင့် မတည်ရင်းနှီး၍ ရာနှုန်းပြည့်ထောက်မထားသောကုမ္ပဏီများ၊ ဖက်စပ်ကုမ္ပဏီများကို ဖွဲ့စည်းတည်ထောင်ကာ ဆောင်ရွက်လျက်ရှိပါသည်။

၂။ သို့ဖြစ်ပါ၍ ကုမ္ပဏီ၏မှတ်ပုံတင်သက်တမ်းတိုးရန်ကိစ္စအား ယခုစတင်ဆောင်ရွက်သည်ဖြစ်ရာ သက်တမ်းတိုးရရှိရေးအတွက် အောက်ပါစာရွက်စာတမ်းများနှင့်အတူ တင်ပြလျှောက်ထားအပ်ပါသည်–

(က) ကုမ္ပဏီမှတ်ပုံတင်လက်မှတ်(မိတ္တူ) ၁ စောင်
(ခ) ထုတ်ကုန်သွင်းကုန်လိုင်စင်(မိတ္တူ) ၁ စောင်
(ဂ) UMFCCI (မိတ္တူ) ၁ စောင်
(ဃ) ဝန်ကြီးရုံး၊ ကာကွယ်ရေးဝန်ကြီးဌာန၏သဘောထားပြန်ကြားချက်(မိတ္တူ) ၁ စောင်
(င) အခွန်ကင်းလွတ်ခွင့်ပြုကြောင်း ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနမှခွင့်ပြုစာ(မိတ္တူ) ၁ စောင်
(စ) Form E (မိတ္တူ) ၁ စောင်
(ဆ) Form XXVI (မိတ္တူ) ၁ စောင်
(ဇ) ဝန်ကြီး၊ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာနထံ တင်ပြစာ(မိတ္တူ) ၁ စောင်

မန်နေဂျင်းဒါရိုက်တာ(ကိုယ်စား)
ဒုတိယဗိုလ်မှူးကြီးသန်းထွန်း(ငြိမ်း)၊ ဒုတိယမန်နေဂျင်းဒါရိုက်တာ

မိတ္တူကို
ရုံးလက်ခံ
မျှောစာတွဲ

ကော်မရှင်၏ (၂၀ / ၂၀၁၀) အစည်းအဝေး

အကြောင်းအရာ။ ။ ရန်ကုန် - ပြည် - မကွေး လမ်းအပိုင်း(ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင်လီမိတက်) နှင့် မုံရွာ - ယာကြီးလမ်းအပိုင်း (မုံရွာအုပ်စုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်)တို့အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်များ တင်ပြလာခြင်း ကိစ္စ။

၁။ အောက်ပါလမ်းအပိုင်း(၂)ခု အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရန် ဆောက်လုပ် ရေး ဝန်ကြီးဌာနမှ တစ်ဆင့်အဆိုပြုလွှာများ တင်ပြလာပါသည်။

| စဥ် | လမ်းအပိုင်း/ကုမ္ပဏီ | ရင်းနှီးမြှုပ်နှံမှု ကျပ်(သန်း) | ပုံမှန်နှစ် ဝင်ငွေ ကျပ်(သန်း) | အရင်းအနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR (ရာခိုင်နှုန်း) | အရင်းကြေ ကာလ |
|---|---|---|---|---|---|
| ၁။ | ရန်ကုန် - ပြည် - မကွေး လမ်းအပိုင်း (၃၄၀ မိုင်၊ ၂၃ ဖာလုံ) (ပြည်ထောင်စုမြန်မာနိုင်ငံ စီးပွားရေးဦးပိုင် လီမိတက်) | ၆၅၅၀၂.၀၀ | ၃၀၁၁.၈၄ | ၁.၈၃ % | (၃၀)နှစ်နှင့် (၂)လ |
| ၂။ | မုံရွာ-ယာကြီးလမ်း အပိုင်း (၄၀)မိုင် (မုံရွာအုပ်စုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) | ၄၂၉၃.၀၀ | ၂၇၅.၉၉ | ၁.၆၈ % | (၃၁)နှစ်နှင့် (၄)လ |

၂။ အဆိုပြုလမ်းအပိုင်းများရှိ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ တည်ဆောက်ထားသည့် (၁၈၀) ပေ အထက် တံတားများအတွက် တံတားအသုံးပြုခ ကောက်ခံမှုများကို ကုမ္ပဏီများသို့ လေလံစနစ်ဖြင့် ဆောင်ရွက်စေပြီး ၊ ကုမ္ပဏီမှ တည်ဆောက်ထားသည့် (၁၈၀)ပေ အထက် တံတားများ အတွက် တံတား အသုံးပြုခများကို ကုမ္ပဏီမှ ကောက်ခံခြင်းစနစ်ဖြင့် ဆောင်ရွက်ပါသည်။ လမ်းအပိုင်း

အလိုက် (၁၈၀) ပေ အထက် တံတားကြီးများတည်ဆောက်မှု အခြေအနေမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်။

| စဉ် | လမ်းအပိုင်း | ဌာနမှ တည်ဆောက်သည့် တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း) | ကုမ္ပဏီမှ တည်ဆောက်သည့် တံတား (ကုမ္ပဏီမှကောက်ခံ ခြင်း) | မှတ်ချက် |
|---|---|---|---|---|
| ၁။ | ရန်ကုန် - ပြည် - မကွေး လမ်းအပိုင်း (၃၄၀ မိုင်၊ ၂ ဖာလုံ) | ၁။ တံတားအမှတ် ၂/၂၂၇ (၂၇၆′)<br>၂။ တံတားအမှတ် ၁/၉၃ တောင်ဦးချောင်းတံတား (၂၄၀′) | ၁။ တံတားအမှတ် ၄/၇၇ သုံးဆယ်တံတား (၃၀၀′)<br>၂။ တံတားအမှတ် ၃/၈၉ ကျွန်းကလေးတံတား (၂၂၀′)<br>၃။ တံတားအမှတ် ၂/၁၄၀ ဘိုးသာအောင်ကုန်း တံတား (၂၅၀′)<br>၄။ တံတားအမှတ် ၆/၁၄၈ ဝက်ပုတ်တံတား (၁၈၀′)<br>၅။ တံတားအမှတ် ၁/၁၈၅ (၂၁၅.၇၅′)<br>၆။ တံတားအမှတ် ၄/၂၁၂ ဘွက်ကြီးတံတား (၁၇၇၀′)<br>၇။ တံတားအမှတ် ၄/၂၅၃ ကိုးပင်တံတား (၄၃၆′)<br>၈။ တံတားအမှတ် ၁/၂၆၈ (၂၆၅′)<br>၉။ တံတားအမှတ် ၄/၂၉၂ ကုက္ကိုခွတံတား (၆၄၂′)<br>၁၀။ တံတားအမှတ် ၄/၃၁၇ ယင်းချောင်းတံတား (၄၈၀′) | ဌာန = ၂<br>ကုမ္ပဏီ = ၁၀ |

| စဉ် | လမ်းအပိုင်း | ဌာနမှ တည်ဆောက်သည့် တံတား (လေလံစနစ်ဖြင့် ဆောင်ရွက်ခြင်း) | ကုမ္ပဏီမှ တည်ဆောက်သည့် တံတား (ကုမ္ပဏီမှကောက်ခံခြင်း) | မှတ်ချက် |
|---|---|---|---|---|
| ၂။ | မုံရွာ-ယာကြီးလမ်းအပိုင်း (၄၀)မိုင် | ချင်းတွင်းတံတား (၄၇၃၀.၂) | - | ဌာန = ၁ |

၃။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် ကုမ္ပဏီတို့ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ(တည်ဆောက်ရေး ကာလ)မှာ (၃)နှစ်ဖြစ် ပါသည်။

(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀) ဖြစ်ပြီး နှစ်ဖက်သဘောတူပါက တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့် (၃)ကြိမ် တိုးမြှင့်နိုင်သည်။ လုပ်ငန်းသက်တမ်းကာလကို လမ်းဖောက်လုပ်သည့် လုပ်ငန်း ကာလ (၃)နှစ် အထိ ဆောင်ရွက်ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှုလက်မှတ်ထုတ်ပေးသည့်နေ့၊ ထိုနှစ်ရပ်အနက်စောရာ နေ့ရက် ကာလ မှ စတင်သတ်မှတ်မည်ဖြစ်ပါသည်။

(ဂ) အဆိုပြုကုမ္ပဏီများမှ အောက်ပါလမ်းအသုံးပြုခ နှုန်းထားများအတိုင်း ကောက်ခံမည် ဖြစ်ပါသည်။

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း |
|---|---|---|
| ၁။ | (၁)တန်အောက် ယာဉ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ (၃)တန်အထိ ယာဉ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅)တန်အောက် ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက် ကုန်တင်ယာဉ်ကြီးများ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်အထိ ကုန်တင်ယာဉ်ကြီးများ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက် တန်ပို(၁)တန်လျှင် | ၈ ကျပ် ၂၆ ပြား |

(ဃ) တံတားအသုံးပြုခများကို ပေ(၁၈၀)နှင့် အထက် ရှည်သည့် တံတားများအတွက် နိုင်ငံတော်မှ တည်ဆောက်ထားသော တံတားများအား လေလံစနစ် ဖြင့် လည်းကောင်း၊ ကုမ္ပဏီ၏ ရန်ပုံငွေဖြင့် တည်ဆောက်သော တံတားများအတွက် ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း နှင့် ကုမ္ပဏီတို့ ညှိနှိုင်းသဘောတူညီသည့် နှုန်းထားဖြင့် လည်းကောင်း ကောက်ခံရမည်ဖြစ်ပါသည်။

(ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ တံတားအသုံးပြုခနှုန်းကို ပူးတွဲတင်ပြထား ပါသည်။)

(င) လမ်း၊ တံတားအသုံးပြုခရငွေအပေါ် ခွင့်ပြုကာလအပိုင်းအခြားအလိုက် အောက်ပါသတ်မှတ်ထားသည့် ရာခိုင်နှုန်းများအတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါသည်။

| | | |
|---|---|---|
| (၁) | ပထမ (၃)နှစ်အတွက် | --------ကင်းလွတ်ခွင့်ကာလ |
| (၂) | (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် | --------၅% ပေးသွင်းရန် |
| (၃) | (၁၄) နှစ်မြောက် မှ (၂၃) နှစ်မြောက် အထိ (၁၀)နှစ် | --------၁၀% ပေးသွင်းရန် |
| (၄) | (၂၄) နှစ်မြောက်မှ (၃၃) နှစ်မြောက် အထိ (၁၀)နှစ် | --------၁၅% ပေးသွင်းရန် |
| (၅) | (၃၄) နှစ်မြောက် မှ (၄၀) နှစ်မြောက် အထိ (၇)နှစ် | --------၂၀% ပေးသွင်းရန် |

(စ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ဘဏ်အာမခံကြေးငွေအဖြစ် စာချုပ်ချုပ်ဆိုပြီး (၃၀) ရက်အတွင်း ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့်ညီမျှသောငွေကို ထားရှိပေးရမည်။ယင်းသက်တမ်းသည် စတင်ထုတ်ပေးသည့် နေ့မှလုပ်ငန်းပြီးဆုံးအောင် ဆောင်ရွက်သည်အထိဖြစ်ပါသည်။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်း စတင်ရန် အကြောင်းကြားစာရပြီး ရက်(၃၀)အတွင်း လုပ်ငန်းစတင်ရန် ပျက်ကွက် လျှင်သော်လည်းကောင်း၊ သတ်မှတ်ကာလအတွင်းလုပ်ငန်းကို ပြီးစီးအောင် ဆောင်ရွက်ရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန်ပျက်ကွက်ပါက ဘဏ်အာမခံငွေကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ သိမ်းယူရမည်ဖြစ်ပါသည်။ ဘဏ်အာမခံငွေကို လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးပြီး ရက်ပေါင်း (၃၀)အတွင်း လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသို့ ပြန်လည်ထုတ်ပေးရမည်။

(ဆ) အဆိုပြုကုမ္ပဏီများသည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံ လုပ်ကိုင်ခွင့်မပြုရပါ။

(ဈ) လုပ်ငန်းစတင်သည့်နေ့သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ (ဌာန)မှ လုပ်ငန်းစတင်ရန် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ (ကုမ္ပဏီ)သို့ အကြောင်းကြားသည့်နေ့ဖြစ်သည်။

(ဈ) လုပ်ငန်း လုပ်ကိုင်ခွင့် ပြုသည့် ကာလ နှစ် (၄၀) သို့မဟုတ် နောက်ထပ် တိုးမြှင့်ကာလများ ပြီးဆုံးပါက အဆိုပါလမ်း နှင့် တံတားများ၊ ဂိတ်များနှင့် အဆောက်အဦများကို ဆောက်လုပ်ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့်အနေအထားအတိုင်း ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာမရှိဘဲ လွှဲပြောင်းပေးရမည် ဖြစ်ပါသည်။

၄။ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း မှ လမ်းအပိုင်းအလိုက် လမ်း ဖောက်လုပ်သည့် လုပ်ငန်းစတင်ဆောင်ရွက် ခွင့်ပြုသည့် နေ့ရက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| စဉ် | ကုမ္ပဏီအမည် | လမ်းအပိုင်း | လုပ်ငန်းစတင် ဆောင်ရွက်ခွင့်ပြုသည့်နေ့ |
|---|---|---|---|
| ၁။ | ပြည်ထောင်စုမြန်မာနိုင်ငံ စီးပွားရေးဦးပိုင် လီမိတက် | ရန်ကုန် - ပြည် - မကွေး လမ်းအပိုင်း | ၁-၄-၂၀၀၈ |
| ၂။ | မုံရွာအုပ်စုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | မုံရွာ-ယာကြီးလမ်းအပိုင်း | ၁-၁၂-၂၀၀၉ |

၅။ <u>စိစစ်တင်ပြချက်</u>

ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကော်မရှင်သို့ တင်ပြခွင့်ပြုချက်ရယူခဲ့သည့် လမ်းလုပ်ငန်းများကို အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်။

| | |
|---|---|
| (၁) ကော်မရှင်ခွင့်ပြုမိန့်ထုတ်ပေးပြီးလုပ်ငန်းအရေအတွက် | ၃၃ |
| (၂) ကုန်သွယ်မှုမူဝါဒကောင်စီသို့တင်ပြရန်ရှိသည့်လုပ်ငန်းအရေအတွက် | ၃ |
| စုစုပေါင်း | ၃၆ |

၆။ သို့ဖြစ်ပါ၍ ရန်ကုန် - ပြည် - မကွေး လမ်းအပိုင်း (ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေးဦးပိုင်လီမိတက်) နှင့် မုံရွာ - ယာကြီးလမ်းအပိုင်း (မုံရွာအုပ်စုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်) တို့အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံ ခြင်းလုပ်ငန်းဆောင်ရွက်ခွင့် အဆိုပြုချက်များအား ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် တင်ပြလာခြင်း အပေါ် စီးပွားရေးဆိုင်ရာ အမိကအချက်များ ကို ပူးတွဲ တင်ပြလျှက် လမ်းညွှန်မှု ခံယူအပ်ပါသည်။

**ရန်ကုန် - ပြည် - မကွေး လမ်းအပိုင်း (ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင်လီမိတက်)အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင်လီမိတက် (ကုမ္ပဏီမှတ်ပုံတင်အမှတ်၊ ၂၈ / ၁၉၉၀ -၁၉၉၁ (၂၇-၄-၁၉၉၀) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဗိုလ်ချုပ်ဝင်းသန်း (အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ရန်ကုန် - ပြည် - မကွေး လမ်းအပိုင်း အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | |
| | - ရန်ကုန် - ပြည် - မကွေး | ၃၀၈ မိုင် ၊ ၅ ဖာလုံ (မိုင်တိုင် ၂၂/၃ မှ ၃၃၁/ ၀ ထိ ) |
| | - ကိုးပင်-စမ်းမကြီး-သစ်ရာကောက် | ၁၉ မိုင်၊ ၃ ဖာလုံ (မိုင်တိုင် ၀/၀ မှ ၁၉/၃ ထိ ) |
| | - အမှတ်(၄) လမ်းမကြီး | ၆ မိုင်၊ ၄ ဖာလုံ (မိုင်တိုင် ၆/၀ မှ ၁၂/၄ ထိ ) |
| | -ပြည်မြို့ရှောင်လမ်း | ၅ မိုင်၊ ၆ ၁/၂ ဖာလုံ |
| | စုစုပေါင်း | ၃၄၀ မိုင်၊ ၂ ၁/၂ ဖာလုံ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၆၅၅၁၂.၁၀ သန်း |
| | - ငွေပမာဏ | |
| | - လမ်း | ၂၁၈၅၃.၀၀ |
| | - တံတား | ၄၃၀၃၈.၆၁ |
| | | ၆၂၀.၄၉ |
| | | (လုပ်ငန်းသုံး စက်ယန္တရားများတန်ဖိုး ဖော်ပြမထားပါ။) |
| ၆။ | လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ | - အသွား/အပြန်ခရီးအတွက် |
| | | ထောက်ကြန့်ဂိတ် (၁)ဂိတ် |
| | | အမှတ်(၄)လမ်းဆုံဂိတ် (၁)ဂိတ် |
| | | တိုက်ကြီးဂိတ် (၁)ဂိတ် |
| | | သာယာဝတီဂိတ် (၁)ဂိတ် |
| | | နတ်တလင်းဂိတ် (၁)ဂိတ် |
| | | ပြည်ဂိတ် (၁)ဂိတ် |
| | | အောင်လံဂိတ် (၁)ဂိတ် |
| | | ကုက္ကိုခွဂိတ် (၁)ဂိတ် |
| | | သစ်ရာကောက်ဂိတ် (၁)ဂိတ် |
| | | မကွေးဂိတ် (၁)ဂိတ် |
| | | (ဂိတ်စခန်းထားရှိမည့် မိုင်တိုင်များ ဖော်ပြမထားပါ။) |

| | | |
|---|---|---|
| ၇။ | ဝင်ငွေ (တည်ဆောက်ရေး ကာလပြီး လုပ်ငန်းသက်တမ်း(၇)နှစ်မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | - ကျပ် ၃၀၁၁.၈၄ သန်း (ကုမ္ပဏီ မှ ကောက်ခံသည့် တံတားဝင်ငွေပါဝင်ပါသည်။) |
| ၈။ | အသားတင်အမြတ် (၇နှစ်မြောက်) | - ကျပ် ၂၈၄.၆၈ သန်း |
| ၉။ | အရင်းကြေကာလ | - (၁၀) နှစ် နှင့် (၂)လ |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁.၈၃ % |
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် | |
| | - ဝင်ငွေခွန် | ကျပ် ၁၂၂.၀၁ သန်း |
| | - လမ်းတံတားဖြတ်သန်းခ ရငွေ | ကျပ် ၁၅၀.၅၉ သန်း |
| ၁၂။ | လုပ်သားအင်အား (ပြည်တွင်း) | လုပ်ငန်းဆောင်ရွက်မှုကာလ ၈၁၈ ဦး |
| ၁၃။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |
| ၁၄။ | အခွန်ကင်းလွတ်ခွင့်/ သက်သာခွင့် | - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်အကောက်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ကို ခံစားခွင့်ပြုရပါမည်။ |

## မုံရွာ-ယာကြီးလမ်းအပိုင်း (မုံရွာအုပ်စုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် )အား B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - မုံရွာအုပ်စုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (ကုမ္ပဏီမှတ်ပုံတင်အမှတ်၊ ၁၁၆၁ / ၂၀၀၉ -၂၀၁၀ (၁၀-၁၁-၂၀၀၉)(ယာယီ) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးသန်းထွန်း (အုပ်ချုပ်မှုဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - မုံရွာ-ယာကြီးလမ်းအပိုင်း အား B.O.T စနစ် ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ။ |
| ၄။ | လုပ်ငန်းတည်နေရာ (လမ်းအရှည်မိုင်) | - မုံရွာ - ယာကြီး လမ်းအပိုင်း မိုင်တိုင် ၀/၀ မှ ၄၀/၀ ထိ (၄၀ မိုင်) |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- ငွေပမာဏ<br>- စက်ပစ္စည်းကိရိယာများ<br>- အဆောက်အဦများ<br>- လမ်းလုပ်ငန်း<br>- တံတားနှင့်ရေကျော်လုပ်ငန်း | - ကျပ် ၄၂၉၃.၀၀ သန်း<br>၂၀၀.၀၀<br>၄၁.၀၀<br>၁၁၀.၅၀<br>၃၈၄၃.၅၀<br>၉၈.၀၀ |
| ၆။ | လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ | - အသွား/အပြန်ခရီးအတွက်<br>မိုင်တိုင်အမှတ် ၅/ ၅-၆ လက်ခုပ်ပင်ဂိတ် (၁)ဂိတ် |
| ၇။ | ဝင်ငွေ (တည်ဆောက်ရေး ကာလပြီး လုပ်ငန်းသက်တမ်း(၇)နှစ်မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | - ကျပ် ၂၇၅.၉၉ သန်း |
| ၈။ | အသားတင်အမြတ် (၇နှစ်မြောက်) | - ကျပ် ၁၅.၃၇ သန်း |
| ၉။ | အရင်းကြေကာလ | - (၃၁) နှစ် နှင့် (၄)လ |
| ၁၀။ | အရင်းအနှီးအပေါ်အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁.၆၈ % |

| | | |
|---|---|---|
| ၁၁။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်<br>- ဝင်ငွေခွန်<br>- လမ်းတံတားဖြတ်သန်းခ ရငွေ | <br><br>ကျပ် ၆.၅၉ သန်း<br>ကျပ် ၁၃.၈၀ သန်း |
| ၁၂။ | လုပ်သားအင်အား (ပြည်တွင်း) | လုပ်ငန်းဆောင်ရွက်မှုကာလ ၁၈ ဦး |
| ၁၃။ | ကတိဝန်ခံချက်များ | - နိုင်ငံတော် အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက် များကို လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။ |
| ၁၄။ | အခွန်ကင်းလွတ်ခွင့်/<br>သက်သာခွင့် | - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်အကောက်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ ကို ခံစားခွင့်ပြုရပါမည်။ |

ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | မုံရွာအုပ်စုဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Monywa Group Construction Co., Ltd.) | ၁။ ဦးသန်းထွန်း (အုပ်ချုပ်မှု ဒါရိုက်တာ) | အမှတ်(၅၂၀)၊မကျည်းကုန်းလမ်း၊ ချမ်းမြသာစည်ရပ်ကွက်၊ မုံရွာမြို့နယ်၊ စစ်ကိုင်းတိုင်း။ |
| | | ၂။ ဦးဟန်ဇော်ထွန်း (ဒါရိုက်တာ) | အမှတ်(၆၂)၊ မကျည်းကုန်းလမ်း၊ ချမ်းမြသာစည်ရပ်ကွက်၊ မုံရွာမြို့နယ်၊ စစ်ကိုင်းတိုင်း။ |
| | | ၃။ ဦးအောင်ကိုထွန်း (ဒါရိုက်တာ) | အမှတ်(၆၂)၊ မကျည်းကုန်းလမ်း၊ ချမ်းမြသာစည်ရပ်ကွက်၊ မုံရွာမြို့နယ်၊ စစ်ကိုင်းတိုင်း။ |

## ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၏ တံတား အသုံးပြုခနှုန်းထား
## (သာမန်တံတား)

| | | |
|---|---|---|
| (က) | ဆိုင်ကယ်၊ မြင်းလှည်း၊ ထော်လာဂျီ | ၅ ကျပ် |
| (ခ) | (၂)တန်အောက်ယာဉ်၊ အခြားယာဉ်များ၊ ကိုယ်ပိုင်ယာဉ်ငယ်များ | ၁၀ ကျပ် |
| (ဂ) | ဟိုင်းလတ်ခရီးသယ်တင်ယာဉ် | ၄၀ ကျပ် |
| (ဃ) | (၂)တန်အောက် ခရီးသယ်တင်ယာဉ် | ၄၀ ကျပ် |
| (င) | (၂)တန်မှ (၅)တန်အောက်ယာဉ် | ၆၀ ကျပ် |
| (စ) | (၅)တန်နှင့် အထက် ခရီးသယ်တင်ယာဉ် | ၁၁၀ ကျပ် |
| (ဆ) | (၅)တန်နှင့်အထက် ယာဉ်ကြီး | ၁၅၀ ကျပ် |
| (ဇ) | ထရပ်ကား (၂၀)တန်အထိ | ၁၅၀ ကျပ် |

## ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၏ တံတား အသုံးပြုခနှုန်းထား
## (စီမံကိန်းဝင်တံတား)

| | | |
|---|---|---|
| (က) | စက်ဘီး | ၅ ကျပ် |
| (ခ) | ဆိုင်ကယ်၊ မြင်းလှည်း၊ | ၁၀ ကျပ် |
| (ဂ) | ထော်လာဂျီ (ခရီးသည်/ကုန်မပါ) | ၅၀ ကျပ် |
| (ဃ) | (၂)တန်အောက်ယာဉ်၊ အခြားယာဉ်များ၊ ကိုယ်ပိုင်ယာဉ်ငယ်များ | ၇၅ ကျပ် |
| (င) | ဟိုင်းလတ်ခရီးသယ်တင်ယာဉ် | ၂၀၀ ကျပ် |
| (စ) | (၂)တန်မှ (၅)တန်အောက်ယာဉ် | ၂၅၀ ကျပ် |
| (ဆ) | (၅)တန်ရှိ ခရီးသည်တင်ယာဉ် | ၄၅၀ ကျပ် |
| (ဇ) | (၅)တန်မှ (၁၀)တန်အောက် ကုန်တင်ယာဉ်ကြီး | ၇၀၀ ကျပ် |
| (ဈ) | (၁၀)တန်မှ(၂၀)တန်အထိ ကုန်တင်ယာဉ်ကြီး | ၁၀၀၀ ကျပ် |

မှတ်ချက်။ ။ (ကုန်+ ယာဉ်) ၂၀ တန်ထက်ကျော်သော ယာဉ်များအတွက် တန်ပိုကြေးအဖြစ် (၁)တန်လျှင် ၁၀၀ ကျပ် နှုန်း၊

ခရီးသည်(သို့မဟုတ်) ကုန်တင်ဆောင်လာသည့် ထော်လာဂျီယာဉ် ၂၀၀ ကျပ်နှုန်း

## B.O.T စနစ်ဖြင့် လုပ်ကိုင်ခွင့်ပြုထားသော မြန်မာလင်း(န်)အင်(န်)ဒဲဗလော့(ပ်)မင့်(တ်)လီမိတက်၏ ရန်ကုန်-ပြည်-မကွေးလမ်း လမ်းအဆင့်မြှင့်တင်ခြင်းလုပ်ငန်း တည်နေရာပြမြေပုံ




| ရှင်းလင်းချက် | | |
|---|---|---|
| ရန်ကုန်-ပြည်-မကွေး လမ်းပိုင်း(၂၂/၃ မှ ၃၃၁/၀)ထိ | = ၃၀၈/၅ | မိုင် |
| ကိုးပင်-စမ်းမကြီး-သစ်ရာကောက်လမ်း | = ၁၉/၃ | မိုင် |
| ပြည်မြို့ရှောင်လမ်း | = ၅/၆ ၁/၂ | မိုင် |
| အမှတ်(၄)လမ်း | = ၆/၄ | မိုင် |
| စုစုပေါင်းမိုင်အရှည် | = ၃၄၀/၂ ၁/၂ | မိုင် |

**ရည်ညွှန်းချက်**

- တိုးဂိတ်နေရာ
- လမ်းဂိတ်
- တံတားဂိတ်
- မြို့
- မြစ်ချောင်း

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ရက- ၆(ခ) / မ- ၁၄၉၈ / ၂၀၁၀ ( ၁၂၉၉၁)၊

**<u>ပြည်ထောင်စု မြန်မာနိုင်ငံ စီးပွားရေး ဦးပိုင်လီမိတက်(The Union of Myanmar Economic Holdings Ltd.)မှ ရန်ကုန်- ပြည်-မကွေး လမ်းအပိုင်းတွင် B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံ ခြင်းလုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ။</u>**

**<u>အကျဉ်းချုပ်။</u>** ။ မြန်မာကုမ္ပဏီဖြစ်သော ပြည်ထောင်စုမြန်မာနိုင်ငံ စီးပွားရေးဦးပိုင်လီမိတက် (The Union of Myanmar Economic Holdings Ltd.) မှ အောက်ပါ ရန်ကုန်- ပြည်-မကွေးလမ်းအပိုင်း (၃၄၀ မိုင် ၂ $\frac{၁}{၂}$ ဖာလုံ) ကို B.O.T စနစ် ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဗိုလ်ချုပ်ဝင်းသန်း (အဘ- ဦးသန်းဖေ) မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြု တင်ပြလာခြင်း ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အား (၁၈-၆-၂၀၁၀) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀/၂၀၁၀) အစည်းအဝေးသို့ တင်ပြခဲ့ရာ " တံတား အမျိုးအစားအလိုက် အသုံးပြုခ ကောက်ခံသည့်နှုန်း သတ်မှတ်ပေးရန်နှင့် ဌာနမှ တည်ဆောက်သည့် တံတား၊ ကုမ္ပဏီ မှ တည်ဆောက်သည့်တံတားများ စာရင်းကို ပြန်လည်စိစစ်ပြီး ကုန်သွယ်မှု မူဝါဒကောင်စီသို့ တင်ပြ လမ်းညွှန်မှုခံယူရန်" ဆုံးဖြတ်ချက်အရ ဆောက်လုပ်ရေးဝန်ကြီးဌာန မှ တင်ပြလာခြင်း ဖြစ်ပါသည်။

အဆိုပြု လမ်းအပိုင်းတွင် ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း မှ တည်ဆောက်ထား သည့် (၁၈၀)ပေအထက် တံတား(၁၂)စင်းတွင် တံတား(၁)စင်းနှင့်(၁)စင်း နီးကပ်ခြင်း၊ မြို့တွင်း နယ်နမိတ်အတွင်း ဖြစ်ခြင်း တို့ကြောင့် တံတား(၅)စင်းသာ သာမန်နှုန်းဖြင့် တံတားအသုံးပြုခ ကောက်ခံမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

အဆိုပြုလမ်းအပိုင်းတွင် အသွား/အပြန် ခရီးစဉ်အတွက် အောက်ပါ မြို့/ နေရာများတွင် တစ်ဂိတ်စီထား၍ လမ်းအသုံးပြုခကောက်ခံမည် ဖြစ်ပါသည် -

(က) ထောက်ကြန့်

(ခ) အမှတ်(၄)လမ်းဆုံ

(ဂ) တိုက်ကြီး

(ဃ) သာယာဝတီ

(င) နတ်တလင်း

(စ) ပြည်

(ဆ) အောင်လံ

(ဇ) ကုက္ကိုခွ

(ဈ) သစ်ရာကောက်

(ည) မကွေး

လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေးကာလ)မှာ (၃)နှစ်ဖြစ်ပါသည်။ လုပ်ငန်း သက်တမ်းကာလမှာ နှစ်(၄၀)ဖြစ်ပြီး နှစ်ဖက်သဘောတူပါက တစ်ကြိမ်လျှင် (၅)နှစ်စီ ဖြင့် (၃)ကြိမ်တိုးမြှင့်နိုင်သည်။ လုပ်ငန်းသက်တမ်း ကာလကို လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ်အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ်အနက် စောရာနေ့ရက် ကာလမှ စတင်သတ်မှတ်မည် ဖြစ်ပါသည်။ (၁-၄-၂၀၀၈)နေ့ကို လုပ်ငန်းစတင်သည့် နေ့သတ်မှတ်သည်။ အဆိုပြုကုမ္ပဏီမှ အောက်ပါ လမ်းအသုံးပြုခနှုန်းများအတိုင်း ကောက်ခံမည် ဖြစ်ပါသည် -

| **စဉ်** | **ယာဉ်အမျိုးအစား** | **လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း** |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဉ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဉ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီး များ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်အထိကုန်တင်ယာဉ်ကြီး များ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈ ကျပ် ၂၆ ပြား |

လမ်း အသုံးပြုခ ရငွေအပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါ သည်။

(၁) ပထမ (၃)နှစ် အတွက် ------ကင်းလွတ်ခွင့်ကာလ

(၂) (၄) နှစ်မြောက်မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် ------၅% ပေးသွင်းရန်

(၃) (၁၄) နှစ်မြောက်မှ (၂၃)နှစ်မြောက်အထိ(၁၀)နှစ် ------၁၀% ပေးသွင်းရန်

(၄) (၂၄) နှစ်မြောက်မှ (၃၃)နှစ်မြောက်အထိ (၁၀)နှစ် ------၁၅% ပေးသွင်းရန်

(၅) (၃၄) နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ (၇)နှစ် ------၂၀%ပေးသွင်းရန်

* B.O.T နှစ် လေးဆယ် ပြည့်ပြီးနောက် သက်တမ်းတိုးခွင့် ရရှိပါက နိုင်ငံတော် မှ သတ်မှတ် ပေးသည့် ရာခိုင်နှုန်းအတိုင်း ပေးသွင်းရမည် ဖြစ်ပါသည်။

လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ စုစုပေါင်း ကျပ် ၆၅၅၁၂.၁၀ သန်း ဖြစ်ပါသည်။ လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် (၇)နှစ် မြောက်တွင် နိုင်ငံတော်မှ ဝင်ငွေခွန် ကျပ် (၈၆.၆၈) သန်း နှင့် လမ်း ဖြတ်သန်းခရငွေ ကျပ် (၁၄၄.၃၉) သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း ၏ အရင်းကြေကာလမှာ (၃၁)နှစ် နှင့် (၃)လ ဖြစ်ပြီး အရင်းအနှီး အပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁.၅) ရာခိုင်နှုန်းဖြစ်ပါသည်။ ပြည်တွင်း မှ လုပ်သား (၈၁၈)ဦး အလုပ်အကိုင် ရရှိ မည် ဖြစ်ပါ သည်။

**``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ'' ၏ တာဝန်များ**

၄။ **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ''**၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) လမ်း-တံတားများအား B.O.T. စနစ်ဖြင့် လုပ်ကိုင်မှုကို **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ''** က ကြီးကြပ်ကွပ်ကဲမှု ပေးရမည်။

(ခ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ''** သည် **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''** မှ ပဋိညာဉ်စာချုပ်ပါ လုပ်ငန်းများ ဆောင်ရွက်နိုင်ရန် နှင့် ဥပဒေနှင့်အညီ စီးပွားရေးလုပ်ငန်းများ ဆောင်ရွက်နိုင်ရန် လိုအပ်သော ခွင့်ပြုမိန့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရရှိရန် ပံ့ပိုးကူညီဆောင်ရွက်ပေးရမည်။

(ဂ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ''** သည် လုပ်ငန်းစီမံကိန်းအတွက် လိုအပ်သောသက်ဆိုင်ရာဝန်ကြီးဌာနများ ၊ အစိုးရဌာနများ၏ အတည်ပြုချက် ၊ သဘောတူညီချက်နှင့် ခွင့်ပြုချက်များရရှိအောင် ဆောင်ရွက်ပေးရမည်။

(ဃ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ''** သည် လုပ်ငန်းစီမံကိန်းအတွက် အဆိုပြုထားသော လမ်းဖြောင့်တန်းမှု အတိုင်း ရရှိစေရန် ဖြည့်ဆည်းဆောင်ရွက်ပေးရမည်။

(င) **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ''** သည် သတ်မှတ်စံချိန်စံညွှန်းနှင့်အညီ ဖောက်လုပ်ပြီးစီးပါက လုပ်ငန်းစီမံကိန်း၏ အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် (**Final Completion Certificate**) ကို **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''**အား ထုတ်ပေးရမည်။ လမ်းအသုံးပြုခ ကောက်ခံခြင်းကိုလည်း ခွင့်ပြုရမည်။

**``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ'' ၏ တာဝန်များ**

၅။ **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''**၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''**သည် ဤစာချုပ်ပါလမ်းအပိုင်းအတွက် လမ်း-တံတားအသုံးပြုခ ကောက်ခံရန် တစ်ဦးတည်း ကိုယ်စားလှယ်အဖြစ် ဆောင်ရွက်ရမည်။

(ခ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''**သည် ပဋိညာဉ်စာချုပ်ပါအချက်များနှင့်အညီ လုပ်ငန်းအတိုင်းအတာ ပမာဏကို ဆောင်ရွက်ရန်နှင့် ပုံစံပြုခြင်း ၊ လုပ်ငန်းအကောင်အထည်ဖော်ခြင်း ၊ လုပ်ငန်းပြီးစီးအောင် ဆောင်ရွက်ခြင်းနှင့် ပဋိညာဉ်စာချုပ်ပါအချက်များနှင့်အညီ ပျက်ကွက်မှုတစ်စုံတစ်ရာအတွက် ပြင်ဆင်မှုပြုခြင်းတို့ကို သဘောတူပြီးဖြစ်သည့်အတိုင်း ဆောင်ရွက်ရမည်။

(ဂ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''**သည် အပိုဒ် ၂ နှင့် ၃ ပါ လုပ်ငန်းများကို ပြီးဆုံးအောင် ဆောင်ရွက်ရန် တာဝန်ရှိသည်။

(ဃ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''**သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများအရ ရာနှုန်းပြည့် ရင်းနှီးမြှုပ်နှံပြီး သီးခြားကုမ္ပဏီတစ်ခုကို ဖွဲ့စည်း၍ အဆိုပြုသည့် လမ်းအပိုင်း ပြုပြင်ဖောက်လုပ်စီမံအုပ်ချုပ်ခြင်းလုပ်ငန်းကို ပြုလုပ်လိုပါက ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ ခွင့်ပြုချက်ရယူ၍ ပြုလုပ်နိုင်သည်။

(င) **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''**သည် ကြီးကြပ်သူ ၊ အလုပ်သမား ၊ စက်ရုံ ၊ အလုပ်ရုံ ၊ ပစ္စည်းများ၊ ကိရိယာတန်ဆာပလာ ၊ ယာယီလုပ်ငန်းများနှင့် အခြားလိုအပ်သော အရာဝတ္ထုများကို ဖြည့်ဆည်းထောက်ပံ့ရမည့်အပြင် ပုံစံပြုပြင်ခြင်း ၊ လုပ်ငန်းအကောင်အထည် ဖော်ခြင်း ၊ ပြီးဆုံးအောင် ဆောင်ရွက်ခြင်းနှင့် ပျက်ကွက်မှုအတွက် ပြင်ဆင်မှုပြုပေးခြင်း စသည်တို့ကို ဆောင်ရွက်ရမည်။

(စ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''**သည် ယင်း၏ ထိန်းချုပ်မှုအောက်ရှိ ဆောက်လုပ်ရေးစခန်းအားလုံးနှင့် လုပ်ငန်းများအားလုံးရှိ လုပ်ငန်းခွင်နေရာများအား လုံလောက်မှု ၊ တည်ငြိမ်မှုနှင့် ဘေးအန္တရာယ်ကင်းရှင်းစေမှုတို့အတွက် အပြည့်အဝ တာဝန်ယူရမည်။

(ဆ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''**သည် ပြည်တွင်းမှ ဝန်ထမ်းများ ၊ အလုပ်သမားများ ၊ ယင်းတို့၏ လုပ်အားခ ၊ နေအိမ် ၊ အစားအသောက်နှင့် သယ်ယူပို့ဆောင်ရေးတို့ကို ယင်း၏ ကိုယ်ပိုင်အစီအစဉ်ဖြင့် ဆောင်ရွက်ပေးရမည်။ ထို့ပြင် လုပ်ငန်းဆောင်ရွက်ရန်အတွက် လိုအပ်ပါက ပြည်ပမှ ဝန်ထမ်းများ ၊ လက်မှုပညာသည်များနှင့် အလုပ်သမားများကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ခေါ်ယူခန့်ထားနိုင်သည်။

(ဓ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``**သည် ဝန်ထမ်းနှင့် အလုပ်သမားများ၏ ကျန်းမာရေးနှင့် ဘေးအန္တရာယ် ကင်းရှင်းရေးတို့အတွက် ကာကွယ်မှုအစီအစဉ်များ ပြုလုပ်ပေးရမည်။

(ဈ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``**သည် ပုံစံပြုဆောင်ရွက်စဉ်နှင့် လုပ်ငန်းအကောင်အထည်ဖော်စဉ် အတွင်း လိုအပ်သော ကြီးကြပ်ကွပ်ကဲမှုများကို လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှုလက်မှတ် **(Final Completion Certificate)** ရရှိသည်အထိ ပြုလုပ်ပေးရမည်။ **(Final Completion Certificate)** ရရှိပြီး **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``**၏ သဘောတူညီချက်ဖြင့် လမ်းအသုံးပြုခကို စတင်ကောက်ခံခွင့်ရှိသည်။

(ည) **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``**သည် ပြည်ပမှ အလုပ်သမားများ မြန်မာနိုင်ငံတွင် ရှိနေစဉ်အတွင်း မြန်မာနိုင်ငံ၏ ဥပဒေ ၊ လုပ်ထုံးလုပ်နည်း ၊ စည်းမျဉ်းများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် တာဝန်ယူရမည်။

(ဋ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``**သည် ပစ္စည်း ၊ ထုတ်ကုန် (သို့မဟုတ်) ကိရိယာတန်ဆာပလာများ ဝယ်ယူမှုအတွက် တစ်ဆင့်ခံ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူတစ်ဦး (သို့မဟုတ်) အများကို လွတ်လပ်စွာ ပြောင်းလဲနိုင်သည်။ တစ်ဆင့်ခံ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ အားလုံးသည် **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``**၏ အမည်ကိုသာ ရယူရမည့်အပြင် **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``**၏ သဘောတူညီချက်နှင့်အညီ ဖြစ်ရမည်။

(ဌ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``**သည် လမ်းနှင့်တံတားများ၏ပုံစံအတွက် အဆိုပြုချက် တင်သွင်းရမည်။ သို့ရာတွင် ယင်းတို့သည် အသေးစိတ်ဖော်ပြချက်ပါ လိုအပ်ချက်များထက်အဆင့် မနိမ့်စေရ၊ အဆိုပြုချက် အသစ်တင်ပြရန် လိုအပ်လာပါက အဆိုပြုချက်အသစ်အရ ဆောင်ရွက်ရာတွင် ဆောက်လုပ်မည့် အချိန်ဇယားသည် နောက်ကျခြင်းမရှိစေရ။

(ဍ) မြေတိုင်းသည့်မြေပုံတွင် ဖော်ပြထားသည့်လမ်း၏ လမ်းအူကြောင်းကို **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``**၏ ခွင့်ပြုချက်ဖြင့်လိုအပ်သလိုပြင်နိုင်သည်။

(ဎ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``**သည် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှု (လုပ်ငန်းခွင်နေရာ အတွင်း နှင့် အပြင်) အတွက် လုပ်ငန်းဆောင်ရွက်မှုကြောင့် လေထု ၊ ရေနှင့် မြေအား ညစ်ညမ်းမှုနှင့် သဘာဝ ပတန်ဝန်းကျင် အခြေအနေ ယုတ်လျော့မှုမရှိအောင် ထိန်းသိမ်းရန် ၊ အများပြည်သူအား နှောင့်ယှက်မှုမရှိစေရန်တို့အတွက် လိုအပ်သော အစီအမံများ ချမှတ်ဆောင်ရွက်ပေးရမည်။

(ဏ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``**သည် အထူးအကြောင်းကိစ္စရပ်များကြောင့် သတ်မှတ်ချိန်အတွင်း လုပ်ငန်းကို ပြီးစီးအောင် မဆောင်ရွက်နိုင်လျှင် **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``**ထံ စာဖြင့် ရေးသား၍ တောင်းဆိုမှုပြုနိုင်သည်။ ယင်းတောင်းဆိုချက်တွင် လုပ်ငန်းပြီးစီးအောင် ဆောင်ရွက်မှုအတွက် အသေးစိတ်အချက်အလက်များနှင့် အချိန်တိုးမြှင့်ပေးရန်အတွက် အသေးစိတ်အကြောင်းပြချက်များ ပါဝင်ရမည်။ **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``**သည် ယင်းတင်ပြချက်အထောက်အထားများ အပေါ် အခြေပြု၍ အချိန်တိုးပေးရန် စဉ်းစားမည်။

(တ) လမ်းဖြတ်သန်းသွားလာသည့် ဧရိယာအတွင်း လုပ်ငန်းဆောင်ရွက်ရာတွင် **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``**သည် သစ်တောဥပဒေပါ ပြဋ္ဌာန်းချက်များကို လိုက်နာရမည်။

(ထ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``**သည် **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``**၏ စာဖြင့် ရေးသားထားသောခွင့်ပြုချက်မရဘဲ လုပ်ငန်းကိုလွှဲပြောင်းခြင်း ၊ လုပ်ငန်းတစ်စိတ်တစ်ဒေသကို ထပ်ဆင့်ငှားရမ်းခြင်း မပြုရ။

(ဒ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``**ထံမှ လုပ်ငန်းစတင်ရန် အကြောင်းကြားချက် ရရှိသည်နှင့် **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``**သည် လမ်းပန်းဆက်သွယ်မှု ပြတ်တောက်ခြင်းမရှိစေရန်အတွက် လုပ်ငန်း စီမံကိန်းနယ်နိမိတ်အတွင်းရှိ လမ်းနှင့်တံတားများကို ကောင်းစွာ ထိန်းသိမ်းထားရှိရမည်။ ထို့အပြင် လုပ်ငန်းဆောင်ရွက်သည့်ကာလအတွင်း လမ်းများ၊ တံတားများကို ကောင်းမွန်သော အနေအထား ရှိစေရန် အစဉ် ပြုပြင်ထိန်းသိမ်းရေးလုပ်ငန်းများကိုလည်းကောင်း ၊ အကြောင်း အမျိုးမျိုးကြောင့် ပျက်စီးယိုယွင်းသွား၍ စံချိန်စံညွှန်းအတိုင်း ပြန်လည်တည်ဆောက်ရန် လိုအပ်သည့်လမ်း-တံတား (လေလံတံတားများမပါဝင်ပါ) လုပ်ငန်း များကိုလည်းကောင်း **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``**က မိမိစရိတ်ဖြင့် ဆောင်ရွက်ရမည်။

(ဓ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``**၏ စာဖြင့် ရေးသားထားသော ခွင့်ပြုချက်မရဘဲ လမ်း-တံတား အသုံးပြုခ ကောက်ခံရေးဂိတ်များနှင့် ကောက်ခံသည့်နှုန်းထားများကို ပြောင်းလဲခြင်းမပြုရ။

(န) စာချုပ်အရ ကင်းလွတ်ခွင့်ပြုထားသည့် မော်တော်ယာဉ်များမှအပ ကျန်မော်တော်ယာဉ်များကို လမ်းအသုံးပြုခ ကောက်ခံနိုင်သည်။

(ပ) စတင်ကောက်ခံသည့် ပထမ (၃) နှစ်ကာလအတွက် လမ်းအသုံးပြုခမှ နိုင်ငံတော်သို့ ပေးသွင်း ခြင်းကို ကင်းလွတ်ခွင့်ပြုသည်။ ကျန်ကာလအတွက် အောက်ပါအတိုင်း နိုင်ငံတော်သို့ ပေးသွင်း ရန်ဖြစ်သည် -

| | | | | | | |
|---|---|---|---|---|---|---|
| (၁) ပထမ (၃) နှစ်အတွက် | | | | | - | ကင်းလွတ်ခွင့်ကာလ |
| (၂) ၄ နှစ်မြောက် | မှ | ၁၃ နှစ်မြောက်အထိ | (၁၀) နှစ် | | - | ၅% ပေးသွင်းရန် |
| (၃) ၁၄ နှစ်မြောက် | မှ | ၂၃ နှစ်မြောက်အထိ | (၁၀) နှစ် | | - | ၁၀% ပေးသွင်းရန် |
| (၄) ၂၄ နှစ်မြောက် | မှ | ၃၃ နှစ်မြောက်အထိ | (၁၀) နှစ် | | - | ၁၅% ပေးသွင်းရန် |
| (၅) ၃၄ နှစ်မြောက် | မှ | ၄၀ နှစ်မြောက်အထိ | (၇) နှစ် | | - | ၂၀% ပေးသွင်းရန် |

(၆) ၄၀ နှစ်ကျော်ကာလအတွက် အချိန်တိုးမြှင့်ကောက်ခံခွင့် တင်ပြချိန်တွင် နိုင်ငံတော်မှ သတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်း ပေးသွင်းရန်ဖြစ်ပါသည်။

(ဖ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``**သည် လမ်းအသုံးပြုခ ကောက်ခံရငွေ စုစုပေါင်း၏ စာရင်းဇယား များကို နှစ်သက်တမ်းအလိုက် ပြက္ခဒိန်နှစ်၏ ဇန်နဝါရီလ (၁) ရက်မှ ထိုနှစ် ဒီဇင်ဘာလ (၃၁) ရက်နေ့အထိ စနစ်တကျ တိကျမှန်ကန်စွာ ပြုစုထားရမည်။ တစ်နှစ်တာလမ်းအသုံးပြုခ ကောက်ခံ ရငွေများစာရင်းကို **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``**၏ စာရင်းစစ်အဖွဲ့ လာရောက်စစ်ဆေးချိန် တွင် စစ်ဆေးခံရန် အသင့်ဖြစ်နေရမည်။

(ဗ) လမ်းအသုံးပြုခ ကောက်ခံရငွေများစာရင်းကို **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``**၏ စာရင်းစစ်အဖွဲ့မှ နောက်နှစ်၏ နှစ်ဆန်း ဇန်နဝါရီလ (၁) ရက်နေ့မှစတင်၍ လာရောက်စစ်ဆေးပြီး နှစ်သက်တမ်း အလိုက် ပေးသွင်းရမည့် ရာခိုင်နှုန်းအရ ကျသင့်ငွေပမာဏကို ဖော်ပြအသိပေးအကြောင်းကြားရမည်။

(ဘ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``**သည် **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``**၏ စာရင်းစစ်အဖွဲ့မှ ကောက်ခံရငွေများစာရင်းကို စစ်ဆေးပြီး နောက်နေ့မှစ၍ ရက်ပေါင်း (၉၀) အတွင်း **``လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ``**မှ သတ်မှတ်ပေးသော အစိုးရဘဏ်နှင့် ငွေစာရင်းအမှတ်သို့ ဘဏ်ငွေ လွှဲလွှာ (သို့မဟုတ်) မျဉ်းသားချက်လက်မှတ်ဖြင့် ပေးသွင်းရပါမည်။ နိုင်ငံတော်သို့ ပေးသွင်း ရမည့် ငွေပမာဏကို ရက်ပေါင်း (၉၀) အတွင်း အကြေပေးသွင်းရန်ဖြစ်ပြီး ပေးသွင်းပြီးကြောင်း အထောက်အထား ငွေသွင်းချလံကို (၇) ရက်အတွင်း **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``**ထံ တင်ပြ ရပါမည်။ အဆိုပါ ပေးသွင်းရမည့် သတ်မှတ်ရက်ထက် ကျော်လွန်ပေးသွင်းပါက ရက်လွန်ဒဏ် ကြေးအဖြစ် (၁) ရက် လျှင် ပေးသွင်းရမည့် ငွေ (၁၀၀)ကျပ်လျှင် (၁)ကျပ်နှုန်းအပိုဆောင်း ပေးသွင်းရမည်။ ရက်လွန်ဒဏ်ကြေးပါ ပေးသွင်းရပါက ပေးသွင်းရန်ငွေနှင့် ရက်လွန်ဒဏ်ကြေး တို့ကို တစ်ပေါင်းတည်း အပြည့်ပေးသွင်းရမည်။ ပေးသွင်းရန်ငွေနှင့် ရက်လွန်ဒဏ်ကြေးပေး သွင်းခြင်းကို အစစ်ဆေးခံသည့် နှစ်၏ နောက်ပြက္ခဒိန်နှစ် ၊ ဒီဇင်ဘာလ (၃၁) ရက်နေ့ထက် မကျော်လွန်စေရပါ။

(မ) ညှိနှိုင်းထားသော ကောက်ခံနှုန်းများအတိုင်း ''**လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ**'' မှ ကောက်ခံရာတွင် အကျိုးအမြတ်မရရှိမှု ၊ အရှုံးပေါ်မှုများရှိလာပါက ကောက်ခံသည့် လမ်းအသုံးပြုခနှုန်းထားများကို ညှိနှိုင်းပြင်ဆင်ရန်အတွက် တင်ပြခွင့်ရှိသည်။ သို့ရာတွင် ''**လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ**''၏ စာရင်းစစ်အဖွဲ့မှ စိစစ်ထားသည့် (၁) နှစ်ချင်း ဝင်ငွေထွက်ငွေ ၊ အရှုံးအမြတ် စာရင်းဇယားအတိအကျကို အထောက်အထားနှင့် ပူးတွဲတင်ပြရမည်။

(ယ) ခွင့်ပြုထားသော စာချုပ်သက်တမ်းကာလ နှစ် (၄၀)ပြည့်ပြီးနောက် ''**လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ**''မှ အကျိုးအမြတ် မရရှိခဲ့လျှင်သော်လည်းကောင်း ၊ ဆက်လက်ဆောင်ရွက်လိုလျှင်သော်လည်းကောင်း၊ ကောက်ခံမှုသက်တမ်းကာလကို (၁) ကြိမ်လျှင် (၅) နှစ်စီဖြင့် (၃)ကြိမ် သက်တမ်းတိုးမြှင့်၍ ကောက်ခံခွင့်ရရှိရေးအတွက် ''**လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ**'' ထံ တင်ပြနိုင်သည်။

(ရ) ''**လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ**''သည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံလုပ်ကိုင်ခွင့်မပြုရ။

(လ) ''**လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ**''သည် တရားဝင်ကိုယ်စားလှယ်ခန့်ရန် ရည်ရွယ်သူ(များ)၏ အမည်၊ ကိုယ်ရေးအချက်အလက်များကို လုပ်ငန်းစတင်ရန် အကြောင်းကြားစာ ထုတ်ပေးသည့်နေ့မှ (၁၄)ရက်အတွင်း ''**လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ**''ထံ တင်ပြရမည်။

(ဝ) ယင်းကိုယ်စားလှယ်သည် ဆောက်လုပ်ရေးနှင့် သက်ဆိုင်သည့် အထောက်အထားများ ပြင်ဆင်ထားရှိခြင်း ၊ လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်ခြင်းများကို အချိန်ပြည့်ဆောင်ရွက်ပေးရမည်။

(သ) ယင်းကိုယ်စားလှယ်သည် လုပ်ငန်းခွင်မှ ပျက်ကွက်သည့်အခါ သင့်တော်သူတစ်ဦးကို အစားထိုးခန့်ထားပြီးနောက် အစားထိုးခန့်ထားကြောင်းကို ''**လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ**''ထံ အကြောင်းကြားရမည်။

**လုပ်ငန်းအာမခံ (Performance Bank Guarantee)**

၆။ ''**လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ**'' သည် စာချုပ်ချုပ်ဆိုပြီး (၃၀) ရက်အတွင်း ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်၏ (၁) ရာခိုင်နှုန်းနှင့် ညီမျှသောငွေကို ပြည်ထောင်စုမြန်မာနိုင်ငံအတွင်းရှိ တရားဝင်ခွင့်ပြုထားသော ဘဏ်တစ်ခုခုမှ ထုတ်ပေးသည့် ကြိုတင်စည်းကမ်းချက်များမပါရှိဘဲ ပြန်လည်ရုပ်သိမ်းနိုင်ခွင့်မရှိသော လုပ်ငန်းအကောင်အထည်ဖော်ရန် တာဝန်ယူသည့် ဘဏ်အာမခံကို ''**လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ**'' ထံသို့ ပေးအပ်ရမည်။ အဆိုပါဘဏ်အာမခံ၏ သက်တမ်းသည် ထုတ်ပေးသည့်နေ့မှ လုပ်ငန်းပြီးဆုံးအောင် ဆောင်ရွက်သည်အထိဖြစ်သည်။ ''**လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ**'' သည် လုပ်ငန်းစတင်ရန် အကြောင်းကြားစာရရှိပြီး (၃၀) ရက်အတွင်း လုပ်ငန်းစတင်ရန် ပျက်ကွက်လျှင်သော်လည်းကောင်း ၊ သတ်မှတ်ကာလအတွင်း လုပ်ငန်းပြီးစီးအောင် ဆောင်ရွက်ရန် အပါအဝင် စာချုပ်ပါစည်းကမ်းချက်များကို လိုက်နာရန်ပျက်ကွက်ပါက ဘဏ်အာမခံငွေကို ''**လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ**''က သိမ်းယူရမည်။ ဘဏ်အာမခံငွေကို လုပ်ငန်းအပြီးသတ်ဆောင်ရွက်ပြီးစီးမှု လက်မှတ်ထုတ်ပေးပြီး ရက်ပေါင်း (၃၀) အတွင်း ''**လုပ်ငန်းလုပ်ကိုင် ခွင့်ရသူ**''ထံ ပြန်လည်ထုတ်ပေးရမည်။

**လမ်း-တံတားအသုံးပြုခကောက်ခံခြင်း**

၇။ လမ်း-တံတားအသုံးပြုခ ကောက်ခံရန် နည်းလမ်းများမှာ အောက်ပါအတိုင်း ဖြစ်သည် -

(က) ''**လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ**''မှ အဆိုပြုတင်ပြလာသည့် လမ်းအပိုင်းကို ''**လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ**''က သဘောတူပါက လမ်း-တံတားအသုံးပြုခ ကောက်ခံသည့်ဂိတ်ကို ''**လုပ်ငန်းလုပ်ကိုင်ခွင့် ရသူ**''က အဆင့်မီအောင် Steel, Aluminium, Brick Structure or Composite တို့ဖြင့် စနစ်တကျ တည်ဆောက်ရမည်။ [ဂိတ်တည်နေရာကို **နောက်ဆက်တွဲ (ခ)** ပါအတိုင်း]

(ခ) လမ်းအသုံးပြုခ ကောက်ခံခွင့်ပြုထားသော လမ်းမကြီးနှင့် ဆက်သွယ်နေသည့် အခြားလမ်းများမှ မော်တော်ယာဉ်များအတွက် လမ်း-တံတားအသုံးပြုခ ကောက်ခံရန် လိုအပ်သည့်နေရာများတွင် အဆင့်မီဂိတ်များ တည်ဆောက်ခွင့်ပြုသည်။ **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"**က လိုအပ်၍ တင်ပြလာလျှင် ဂိတ် (၁) ဂိတ်ထက်ပို၍ တည်ဆောက်ခွင့်ပြုမည်။

(ဂ) လမ်းအသုံးပြုခကို လမ်းအပိုင်းလိုက် မိုင်အရှည်နှင့် လမ်းအသုံးပြုခ (၁) မိုင်နှုန်း မြှောက်၍ ရသည့်ကျသင့်ငွေစုစုပေါင်းကို ဂိတ်မှ ငွေလက်ခံဖြတ်ပိုင်းပေး၍ တစ်ပေါင်းတည်း ကောက်ခံရမည်။

(ဃ) **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"**သည် မိမိအား ခွင့်ပြုထားသည့် လမ်းအပိုင်းတစ်လျှောက် တန်ပိုကြေးအား (၂၀) တန်အထက် တန်ပို (၁) တန်အတွက် (၁) မိုင်ကို (၈/၂၆) ကျပ်နှုန်းထားဖြင့် (၁) ကြိမ်သာ ကောက်ခံခွင့်ရှိသည်။

(င) လမ်း-တံတားအသုံးပြုခကောက်ခံရန် ခွင့်ပြုသည့်နေရာတိုင်းတွင် ကုန်ချိန်ကတ္တားတည်ဆောက်ခွင့်ပြုမည်မဟုတ်ပါ။

(စ) လမ်း-တံတားအသုံးပြုခကောက်ခံရန် တည်ဆောက်ထားသော ဂိတ်အဝင်အထွက်နေရာများသည် အနည်းဆုံး (၄) လမ်းသွား အဆင့်မီ ဖြစ်ရမည်။

(ဆ) မလိုလားအပ်သော အုပ်ချုပ်မှုကိစ္စများ မဖြစ်ပေါ်စေရန်အတွက် လမ်း-တံတားအသုံးပြုခ ကောက်ခံသည့် ဂိတ်များကို လုံခြုံရေးဂိတ်အဖြစ် အသုံးမပြုရ။

(ဇ) **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"**၏ သဘောတူညီချက်ဖြင့် ယာဉ်သွားလမ်းအားလုံးကို ၂၄' အကျယ်နှင့် သတ်မှတ်မိုင်အရှည်ကို ကတ္တရာရေပိတ်လွှာနှစ်ထပ် ကတ္တရာကွန်ကရစ်ခင်းပြီး၍ လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှုလက်မှတ် ရရှိပါက လမ်းအသုံးပြုခကို **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"**က စတင်ကောက်ခံနိုင်သည်။

**လမ်း-တံတားအသုံးပြုခ ကောက်ခံနှုန်းများ**

၈။ လမ်း-တံတားအသုံးပြုခ ကောက်ခံနှုန်းထားများမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(က) **လမ်းအသုံးပြုခ ကောက်ခံနှုန်း**။ လမ်းအသုံးပြုခ ကောက်ခံသော ဂိတ် (၁) ဂိတ်ကို ယာဉ်တစ်စီး ဖြတ်သွားတိုင်း ပေးဆောင်ရမည့် လမ်းအသုံးပြုခနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | | | | |
|---|---|---|---|---|
| (၁) | ၁ တန်အောက် ယာဉ်ငယ်များ | - | ၁ မိုင်လျှင် | ၄/၁၃ ကျပ် |
| (၂) | ၁ တန် မှ ၃ တန်ထိ ယာဉ်များ | - | ၁ မိုင်လျှင် | ၁၂/၃၉ ကျပ် |
| (၃) | ၅ တန်အောက်ကားကြီးများ | - | ၁ မိုင်လျှင် | ၂၀/၆၅ ကျပ် |
| (၄) | ၁၀ တန်အောက် ကုန်တင်ယာဉ်ကြီးများ | - | ၁ မိုင်လျှင် | ၄၁/၃၀ ကျပ် |
| (၅) | ၂၀ တန်အထိ ကုန်တင်ယာဉ်ကြီးများ | - | ၁ မိုင်လျှင် | ၈၂/၅၉ ကျပ် |
| (၆) | ၂၀ တန်အထက် တန်ပို ၁ တန်လျှင် | - | ၁ မိုင်လျှင် | ၈/၂၆ ကျပ် |

(ခ) **တံတားအသုံးပြုခကောက်ခံနှုန်း**

(၁) **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"**သည် ခွင့်ပြုထားသော လမ်းအပိုင်းပေါ်ရှိ တံတားများအသုံးပြုခကို ကောက်ခံရာတွင် ပေ (၁၈၀)နှင့်အထက်ရှည်သည့်တံတားများအတွက် နိုင်ငံတော်မှ တည်ဆောက်ထားသောတံတားများအား လေလံစနစ်ဖြင့်လည်းကောင်း ၊ သက်ဆိုင်ရာကုမ္ပဏီ၏ ရန်ပုံငွေဖြင့် တည်ဆောက်သောတံတားများအတွက် **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** နှင့် **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"**တို့၏ ညှိနှိုင်းသဘောတူညီသည့်နှုန်းထားဖြင့်သာ ကောက်ခံရန်ဖြစ်သည်။

(ဂ) ရှုန်းထားများကို ဤစာချုပ်အရ မည်သို့ပင် သတ်မှတ်ထားစေကာမူ နိုင်ငံတော်မှ အခါအားလျော်စွာ သတ်မှတ်ပေးသည့် ယာဉ်အမျိုးအစားနှင့် သတ်မှတ်ရှုန်းထားအတိုင်း ကောက်ခံသွားရန်ဖြစ်ပါသည်။ သို့ရာတွင် အောက်ဖော်ပြပါယာဉ်များကို ကင်းလွတ်ခွင့်ပြုရန် (သို့မဟုတ်) သင့်လျော်သော အထူးရှုန်းထားဖြင့် ကောက်ခံရန် ဖြစ်ပါသည် -

(၁) သက်ဆိုင်ရာအာဏာပိုင်အဖွဲ့အစည်း ၊ ဝန်ကြီး ၊ ဒုတိယဝန်ကြီးနှင့် အထက်အရေးကြီး ပုဂ္ဂိုလ်လိုက်ပါလာသည့် ယာဉ်တန်းများ ၊ တပ်မတော် ၊ ပြည်သူ့ရဲတပ်ဖွဲ့နှင့် မီးသတ်ယာဉ်များ ၊ သူနာပြုယာဉ်များအပြင် လုပ်ငန်းတာဝန်ဖြင့် ခရီးသွားလာရသော ဆောက်လုပ်ရေး ဝန်ကြီးဌာန ၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း (ရုံးချုပ်) မှ လမ်း-တံတားအသုံးပြုခ ကင်းလွတ်ခွင့်ကဒ်များနှင့် သီးခြားခွင့်ပြုမိန့်လက်မှတ်ပါသည့် ယာဉ်များကို လမ်း-တံတား အသုံးပြုခ ကင်းလွတ်ခွင့်ပြုရန်။

(၂) ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းအတွက် ဆောက်လုပ်ရေးပစ္စည်းများ တင်ဆောင်သွားလာသည့် မော်တော်ယာဉ်များကို လမ်း-တံတားအသုံးပြုခ ကင်းလွတ်ခွင့်ပြုရန်။

(၃) နိုင်ငံတော်အတွက် စွမ်းစွမ်းတမံ တာဝန်ထမ်းဆောင်ခဲ့ကြပြီး ၊ အပြစ်ကင်းစွာဖြင့် အငြိမ်းစားယူသွားသော ပုဂ္ဂိုလ်ကြီးများနှင့် ၎င်းတို့၏ ဇနီးများအား ဆောက်လုပ်ရေး ဝန်ကြီးဌာန ၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ တရားဝင် အထောက်အထားအဖြစ် ဂုဏ်ပြုထုတ်ပေးထားသော လမ်း-တံတားအသုံးပြုခ ရာသက်ပန်ကင်းလွတ်ခွင့်လက်မှတ် ကိုင်ဆောင် ၍ ကိုယ်တိုင်လိုက်ပါသွားလာသည့် မော်တော်ယာဉ်များကို လမ်း-တံတား အသုံးပြုခ ကင်းလွတ်ခွင့်ပြုရန်။

(၄) လုပ်ကိုင်ခွင့်ရ လမ်းအပိုင်းရှိဒေသမှ ပြည်တွင်းစားသုံးမှုအတွက် ဒေသထွက် အခြေခံ စားသောက်ကုန်ပစ္စည်းများ သယ်ဆောင်လာသည့် မော်တော်ယာဉ်များကို သင့်လျော်သော လမ်း-တံတားအသုံးပြုခရှုန်းထားဖြင့် လျှော့၍ ကောက်ခံရန်။

(၅) နိုင်ငံတော်မှ တာဝန်ယူဆောင်ရွက်သော ပြည်ပထုတ်ကုန်/သွင်းကုန်များကို ဌာနဆိုင်ရာ ထောက်ခံချက်အထောက်အထားဖြင့် သယ်ဆောင်သွားလာသည့် မော်တော်ယာဉ်များကို သင့်လျော်သော လမ်း-တံတားအသုံးပြုခရှုန်းဖြင့် လျှော့၍ ကောက်ခံရန်။

**မိုင်အရှည် ၊ နေ့ရက် ၊ အချိန်နှင့်ကာလ**

၉။ မိုင်အရှည် ၊ နေ့ရက် ၊ အချိန်နှင့်ကာလတို့ကို အောက်ပါအတိုင်း သတ်မှတ်ပါသည် -

(က) **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** သည် ရန်ကုန်-ပြည်-မန္တလေးလမ်း၏ ရန်ကုန်-ပြည်-မကွေးလမ်းပိုင်း မိုင်တိုင် ၂၂/၃ မှ မိုင် ၃၃၁/၀ ထိ ၃၀၈/၅ မိုင်၊ ကိုးပင်-စမ်းမကြီး-သစ်ရာကောက်လမ်းအပိုင်း မိုင် ၀/၀ မှ မိုင် ၁၉/၃ ထိ ၁၉/၃ မိုင်၊ အမှတ် (၄) လမ်းမကြီး မိုင် ၆/၀ မှ မိုင် ၁၂/၄ ထိ ၆/၄ မိုင်၊ ပြည်မြို့ရှောင်လမ်း ၅/၆½ မိုင်၊ စုစုပေါင်း ၃၄၀/၂½ မိုင်ကို ပုံစံပြုရန်နှင့် ဖောက်လုပ်တည်ဆောက်ရန်။

(ခ) **"လုပ်ငန်းစတင်သည့်နေ့"** သည် **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"**မှ လုပ်ငန်းစတင်ရန် **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"**ကို အကြောင်းကြားသည့်နေ့ ဖြစ်သည်။ (၁-၄-၂၀၀၈) နေ့ကို လုပ်ငန်းစတင်သည့်နေ့ သတ်မှတ်သည်။

(ဂ) **"လုပ်ငန်းကာလ"** ဆိုသည်မှာ -

(၁) ဤပဋိညာဉ်စာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်ခွင့်ပြုကြောင်း အကြောင်းကြားသည့် နေ့မှစ၍ (၃) နှစ်အတွင်း ပြီးစီးအောင် ဆောင်ရွက်ပေးရမည်။

(၂) ပေ (၁၀၀) နှင့်အထက်တံတားများ တည်ဆောက်ချိန်ကို (၅) နှစ်သတ်မှတ်ပေးထား ပါသည်။

(ဃ) **``နေ့ရက်``** ဆိုသည်မှာ ပြက္ခဒိန်နေ့ရက်ဖြစ်ပြီး **``နှစ်``** ဆိုသည်မှာ ပြက္ခဒိန်နှစ်ဖြစ်သည်။

**လုပ်ငန်းတန်ဖိုး**

၁၀။ စာချုပ်တွင် ချုပ်ဆိုသည့် လမ်းအပိုင်းအတွက် လမ်းနှင့်တံတား ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်ရာ၌ ရင်းနှီးမြှုပ်နှံမှုတန်ဖိုး စုစုပေါင်းမှာ မြန်မာကျပ်ငွေ (၆၅,၅၁၂.၁၀) သန်း (ကျပ် ခြောက်သောင်းငါးထောင်ငါးရာ တစ်ဆယ့်နှစ်သန်း နှင့် တစ်သိန်းတိတိ) ဖြစ်ပါသည်။

**လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှု**

၁၁။ လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှုကို အောက်ပါအတိုင်း တင်ပြရပါမည်-

(က) **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``** သည် လုပ်ငန်းအစီအစဉ်ကို လုပ်ငန်းစတင်သည့်နေ့မှ (၂) လအတွင်း **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``** ထံ တင်သွင်းရမည်။

(ခ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``** သည် လစဉ် တိုးတက်မှုအစီရင်ခံစာ (နှစ်ဖက် သဘောတူ၍ လက်မှတ်ရေးထိုးထားသည့်ပုံစံဖြင့်) ကို မိတ္တူ (၆) စုံပြုစုပြီး **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``** ထံ တင်သွင်းရမည်။

**စစ်ဆေးခြင်း**

၁၂။ လုပ်ငန်းဆောင်ရွက်ရာ၌ လိုအပ်သောအလုပ်သမား ၊ ပစ္စည်းများ ၊ လျှပ်စစ် ၊ လောင်စာ ၊ သိုလှောင်ခန်းများ ၊ စက်ပစ္စည်းကိရိယာများ ၊ တန်ဆာပလာများနှင့် လုပ်ငန်းဆောင်ရွက်မှု အစရှိသည်တို့ကို **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``** က လိုအပ်သလို ထိရောက်စွာ စစ်ဆေးရန်နှင့် **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``** အထောက်အပံ့ပြုရန်အတွက် စာရွက်စာတမ်း အထောက်အထားများ ၊ သတင်းအချက်အလက်များကို ဖြည့်ဆည်း ဆောင်ရွက်ပေးရမည်။ လမ်းဖောက်လုပ်ပြုပြင်ခြင်း လုပ်ငန်းပြီးဆုံး၍ လုပ်ငန်းစတင် ဆောင်ရွက်သည့်အချိန်မှစ၍ **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``** သည် ကောက်ခံရရှိသော လမ်း-တံတားအသုံးပြုခငွေများနှင့် စပ်လျဉ်းသည့် စာရင်းအင်းများ အပြည့်အစုံ စနစ်တကျထားရှိရမည်။ အဆိုပါ စာရင်းအင်းများကို **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``** က အခါအားလျော်စွာ စစ်ဆေးခွင့်ရှိရမည်။

**ကန့်ကွက်ခြင်း**

၁၃။ စစ်ဆေးတွေ့ရှိချက်များအရ အဆိုပါ လမ်း-တံတား တည်ဆောက်ပြုပြင်ထိန်းသိမ်းခြင်း (သို့မဟုတ်) သတ်မှတ်စံချိန်စံညွှန်းများနှင့် စပ်လျဉ်း၍ ချို့ယွင်းမှု (သို့မဟုတ်) ပဋိညာဉ်စာချုပ်နှင့် မကိုက်ညီမှု တွေ့ရှိရပါက **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``** က ကန့်ကွက်နိုင်သည့်အပြင် **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``** ထံ ချက်ချင်း အကြောင်းကြားရမည်။ **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``** သည် ချို့ယွင်းချက်ကို **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``** ၏ စရိတ်ဖြင့် ကောင်းစွာ ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ကန့်ကွက်ခံရသည့်ပစ္စည်းများကို ပဋိညာဉ်စာချုပ်နှင့်အညီ ဖြစ်စေရန် တာဝန်ယူရမည်။

**မလွန်ဆန်နိုင်သော ဖြစ်ရပ်များ**

၁၄။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် အောက်ပါအတိုင်း ဆောင်ရွက်ရမည်-

(က) **``မလွန်ဆန်နိုင်သောဖြစ်ရပ်``** ဆိုသည်မှာ သဘာဝဘေးအန္တရာယ်များ ၊ အစိုးရတားမြစ်ချက်များ၊ သပိတ်မှောက်ခြင်းများ ၊ သောင်းကျန်းမှုများ ၊ အဓိကရုဏ်းများ ၊ ရောဂါဘယကျရောက်ခြင်းများ ၊ ပြည်သူတို့၏ နှောင့်ယှက်ရန်ပြုမှုများ ၊ ပေါက်ကွဲမှုများ ၊ မီးလောင်ခြင်း ၊ ရေကြီးခြင်း ၊ မြေငလျင်လှုပ်ခြင်း ၊ မုန်တိုင်းကျရောက်ခြင်းနှင့် တစ်ဦးဦးက ထိန်းချုပ်နိုင်စွမ်းမရှိသော ထိုက်သင့်သော ဂရုပြုမှု ၊ ဝီရိယစိုက်ထုတ်မှုပြုလျက်နှင့် တစ်ဦးဦးက ကျော်လွှားနိုင်ခြင်းမရှိသော ဖော်ပြခဲ့ပြီးသည့်အလားတူ အကြောင်းတစ်ရပ်ရပ်ကို ဆိုလိုသည်။

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်သည် မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ဤပဋိညာဉ်စာချုပ်အရ ဆောင်ရွက်ရမည့်တာဝန်များကို ဆောင်ရွက်ရန် (သို့မဟုတ်) အခြားစာချုပ်ဝင် တစ်ဖက်ဖက်၏ ဆောင်ရွက်မှုကို လက်ခံရန် လုံးဝဖြစ်စေ ၊ တစ်စိတ်တစ်ဒေသဖြစ်စေ ၊ ယာယီအားဖြင့် လုပ်ဆောင်နိုင်စွမ်း မရှိလျှင် ထိုသို့လုပ်ဆောင်နိုင်စွမ်းမ ရှိသည့်ဘက်မှ မလွန်ဆန်နိုင်သော ဖြစ်ရပ်၏ အသေးစိတ်အကြောင်းအရာများကို ဖော်ပြလျက် လုပ်ဆောင်နိုင်စွမ်း မရှိသောဖြစ်ရပ် ပေါ်ပေါက်သည့်နေ့မှ (၁၄) ရက်အတွင်း စာချုပ်ဝင် တစ်ဖက်သို့ အကြောင်းကြားစာ ပေးပို့ရမည်။ ယင်းသို့ အကြောင်းကြားစာ ပေးပို့ခြင်းကို တစ်ဖက်စာချုပ်ဝင်က လက်ခံသဘောတူမှသာ မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်စေရမည်။

(ဂ) မလွန်ဆန်နိုင်သော ဖြစ်ရပ်၏ အကျိုးသက်ရောက်မှုခံရသည့် စာချုပ်ဝင်တစ်ဖက်၏ တာဝန်များကို အခြား စာချုပ်ဝင်တစ်ဖက်၏ အတည်ပြုချက်ဖြင့် ထိုသို့ မစွမ်းဆောင်နိုင်မှု ဖြစ်ပေါ်လာသည့် ကာလအတွင်း (ထိုကာလထက်လုံးဝမကျော်လွန်စေဘဲ) ရပ်ဆိုင်းထားရမည်။ ထို့ပြင် ထိုသို့ မစွမ်းဆောင်နိုင်မှု ဖြစ်ပေါ်ရသည့် အကြောင်းရင်းကို ဖြစ်နိုင်သမျှ ဆောလျင်စွာ ဖယ်ရှားပစ်ရမည်။

**''လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''၏ ပျက်ကွက်မှု**

၁၅။ **''လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''**၏ ပျက်ကွက်မှုနှင့်ပတ်သက်၍ လိုက်နာရမည့် အချက်များမှာ -

(က) **''လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''**သည် ယင်း၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရန် ပျက်ကွက်လျှင်ဖြစ်စေ ၊ စာချုပ်ပါလုပ်ငန်းကို ဆောင်ရွက်ခြင်းမပြုလျှင်ဖြစ်စေ ၊ **''လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ''**၏ ကိုယ်စားလှယ်သည် အဆိုပါ ပျက်ကွက်မှုအတွက် သင့်တင့်လျောက်ပတ်သောအချိန်အတွင်း အကောင်းဆုံး ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ပြုပြင်ပေးရန် အကြောင်းကြားစာ ပေးပို့နိုင်သည်။

(ခ) **''လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''**၏ ပျက်ကွက်မှုကြောင့် စာချုပ်တွင် ပြီးစီးရန် သတ်မှတ်ထားသောကာလထက်ကျော်လွန်ပြီးမှ လုပ်ငန်းပြီးစီးမှုအတွက် လုပ်ငန်းနှောင့်နှေးကြန့်ကြာရသော ရက်များအတွက် ရက်လွန်ဒဏ်ကြေးအဖြစ် (၁) ရက်လျှင် ရင်းနှီးမြှုပ်နှံသည့် စီမံကိန်းတန်ဖိုး စုစုပေါင်း (မြန်မာငွေ+US $) ၏ (၀.၁) ရာခိုင်နှုန်းကို ပေးသွင်းရမည်။ စီမံကိန်းတန်ဖိုးတွက်ချက်ရာတွင် အမေရိကန်ဒေါ်လာတန်ဖိုးကို တရားဝင်ငွေလဲလှယ်နှုန်းဖြင့် တွက်ရန်ဖြစ်သည်။

(ဂ) **''လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''**သည် စာချုပ်တွင် သတ်မှတ်ထားသောကာလအတွင်း စာချုပ်ပါလုပ်ငန်းကို ပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်းမရှိပါက **''လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''** ၏ လုပ်ငန်းမပြီးစီးသည့် လုပ်ငန်းဆောင်ရွက်မှုများအပေါ် စိစစ်၍ ထပ်မံလုပ်ကိုင်ခွင့်ပေးရန် မသင့်ဟုယူဆပါက စာချုပ်ပါလုပ်ငန်းကို **''လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ''** မှ သိမ်းယူခွင့်ရှိသည်။

(ဃ) **''လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''** သည် ပဋိညာဉ်စာချုပ်၏ သက်တမ်းကာလအတွင်း လမ်း-တံတားများ အဆင့်မြှင့်တင် တည်ဆောက်ခြင်း ၊ ပြင်ဆင်ထိန်းသိမ်းခြင်းနှင့် လမ်း-တံတားအသုံးပြုခများ ကောက်ခံခြင်း စသည်တို့ကို လမ်းမကြီးများ ဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်ခြင်းမရှိပါက စာချုပ်ပါလုပ်ငန်းကို **''လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ''**မှ သိမ်းယူခွင့်ရှိသည်။

**ပြောင်းလဲခြင်းများ**

၁၆။ ပြောင်းလဲခြင်းများကို အောက်ပါအတိုင်း လိုက်နာရမည် -

(က) **''လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ''** သည် ပဋိညာဉ်စာချုပ်သက်တမ်းကာလအတွင်း **''လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''**အား အဆိုပြုလွှာ တင်သွင်းရန် ညွှန်ကြား၍ဖြစ်စေ ၊ လိုအပ်သည့် ညွှန်ကြားချက်များ ထုတ်ပြန်၍ ဖြစ်စေ ၊ အခါအားလျော်စွာ ဆောင်ရွက်ပိုင်ခွင့်ရှိသည်။

(ခ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``**မှ လုပ်ငန်းပြောင်းလဲရေးအတွက် အဆိုပြုလွှာ တင်သွင်းရန် ညွှန်ကြားသည့်အခါ တင်ပြလာသည့် အဆိုပြုလွှာအပေါ် **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``**၏ တရားဝင် အတည်ပြုချက်မရရှိမီ ကြိုတင်ဆောင်ရွက်ခြင်းမပြုရ။

(ဂ) **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``** မှ လုပ်ငန်းပြောင်းလဲ ဆောင်ရွက်ရေးအတွက် အဆိုပြုလွှာ တင်သွင်းရန် တောင်းဆိုလာပါက **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``** အနေဖြင့် အောက်ဖော်ပြပါ အတိုင်း ဆောင်ရွက်ရမည် -

(၁) ပြောင်းလဲအဆိုပြုမည့်လုပ်ငန်းအမျိုးအစားအလိုက် အသေးစိတ်ပုံစံပြုလွှာ လုပ်ငန်းအစီအစဉ် နှင့် လုပ်ငန်းစီမံချက်များ ရေးဆွဲတင်ပြရမည်။

(၂) လိုအပ်သော အသစ်ပြုပြင်ရေးဆွဲထားသည့် လုပ်ငန်းစီမံချက်အတွက် **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``**၏ အဆိုပြုလွှာ ရေးဆွဲတင်ပြခြင်း။

(၃) **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``**အနေဖြင့် အဆိုပြုလွှာ လက်ခံရရှိပြီးနောက် (၁၄) ရက်အတွင်းအတည်ပြုအမိန့် (သို့မဟုတ်) ကန့်ကွက်လွှာများ (သို့မဟုတ်) ဆောင်ရွက်ခိုင်းသည့်အမိန့်များ ထုတ်ပြန်ပေးရမည်။

(၄) **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``** သည် မိမိညွှန်ကြားသည့် မည်သည့်လုပ်ငန်း ပြောင်းလဲခြင်းမဆို **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ``**အတွက် အပိုကုန်ကျစရိတ်ငွေများ မရှိစေရန် အထူးသတိထားဆောင်ရွက်ရမည်။ မည်သည့်လုပ်ငန်းပြောင်းလဲခြင်းမှ **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``**၏ အတည်ပြုချက်မရယူဘဲ ညွှန်ကြားစေခိုင်းခြင်း မပြုရ။

(၅) **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ``** သည် လုပ်ငန်းပြောင်းလဲခြင်းအား အတည်ပြုပြီး (သို့မဟုတ်) ဆောင်ရွက်ရန် ညွှန်ကြားပြီးတိုင်း ပဋိညာဉ်စာချုပ်ပါ သတ်မှတ်ကာလ အား ပြန်လည်ပြင်ဆင်သတ်မှတ်ရန် ဆုံးဖြတ်ချက် (သို့မဟုတ်) သဘောတူညီချက် ရရှိအောင် ဆက်လက်ဆောင်ရွက်ပေးရမည်။

**ပဋိညာဉ်စာချုပ်ကို ပြင်ဆင်ခြင်းနှင့် ရပ်စဲခြင်း**

၁၇။ အောက်ပါအချက်များပေါ်ပေါက်လာလျှင် ဆောင်ရွက်မည် -

(က) နိုင်ငံတော်မှ ထပ်မံပြင်ဆင်သတ်မှတ်လိုက်သော ဥပဒေများအရ ဤပဋိညာဉ်စာချုပ်ကို ပြင်ဆင် ဖြည့်စွက်ရန်ကိစ္စရပ်များ ပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက် သဘောတူညီမှုဖြင့် ပြင်ဆင် ဖြည့်စွက်နိုင်သည်။

(ခ) ပဋိညာဉ်စာချုပ်ကို အောက်ပါအကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်ပါက ရပ်စဲနိုင်သည်-

(၁) စာချုပ်ဝင်တစ်ဦးဦးမှ ပဋိညာဉ်စာချုပ်ပါ တာဝန်များကို ဆောင်ရွက်ရန် ပျက်ကွက်လျှင်။

(၂) စာချုပ်ဝင်တစ်ဦးဦးမှ ပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်တစ်စုံတစ်ရာကို ချိုးဖောက် လျှင်။

(၃) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သော မလွန်ဆန်နိုင်သည့် ဖြစ်ရပ် တစ်ခုခုသည် (၆) လဆက်တိုက်ပေါ်ပေါက်လျှင်။

(၄) ဤစာချုပ်ကို ရပ်စဲရန် နှစ်ဦးနှစ်ဖက် သဘောတူလျှင်။

(ဂ) ဤပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှတစ်ဆင့် အစိုးရ အဖွဲ့သို့ တင်ပြအတည်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်အတည်ဖြစ်စေရမည်။

**အနုညာတစီရင်ဆုံးဖြတ်ခြင်း**

၁၈။ **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ''** နှင့် **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''** တို့အကြား စာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာ ပေါ်ပေါက်လာပါက ရှေးဦးစွာ နှစ်ဦးနှစ်ဖက်အကြား ကောင်းစွာ မျှတသော ပြေလည်မှု ရရှိရေးအတွက် ညှိနှိုင်းခြင်းဖြင့် ပြေလည်အောင် ဆောင်ရွက်ရမည်။ နှစ်ဦးနှစ်ဖက်အကြား အငြင်းပွားမှုကို ပြေလည်အောင် မဖြေရှင်းနိုင်ပါက ထိုအငြင်းပွားမှုကို အနုညာတနည်းအားဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံ ၊ ရန်ကုန်မြို့တွင် ဖြေရှင်းရမည်။ အနုညာတ ခုံလူကြီးတစ်ဦးစီကို စာချုပ်ဝင်တစ်ဖက်စီက ခန့်ထားပြီး ထိုအငြင်းပွားမှုကို ဖြေရှင်းပါလျက် အငြင်းပွားမှု မပြီးပြတ်ပါက လူကြီးနှစ်ဦးက နောက်ဆုံးအဆင့် ခုံသမာဓိလူကြီး (Umpire) တစ်ဦးကို နှစ်ဦးသဘောတူ ရွေးချယ် ဆုံးဖြတ်စေရမည်။ လူကြီးနှစ်ဦး (သို့မဟုတ်) ခုံသမာဓိလူကြီး ဆုံးဖြတ်ချက်သည် အပြီးအပြတ် ဖြစ်စေရမည့် အပြင် နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနုညာတခုံဖြင့် ဆောင်ရွက်ရာတွင် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံစီရင်ဆုံးဖြတ်ခြင်း အနုညာတ အက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေအမှတ်-၄/၁၉၄၄) နှင့် နောက်ပိုင်း ထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဆောင်ရွက်ရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

**ပဋိညာဉ်ပြီးဆုံးခြင်း**

၁၉။ ပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ စာချုပ်ပါ လုပ်ငန်းကို **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''** မှ အပြည့်အဝ ပြီးဆုံးအောင် ဆောင်ရွက်ပြီးစီးသည့်အခါမှသာ ပဋိညာဉ် ပြီးဆုံးသည်ဟု မှတ်ယူရမည်။

**လွှဲပြောင်းပေးခြင်း**

၂၀။ **``လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ''** သည် ဤပဋိညာဉ်စာချုပ်အရ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသည့် ကာလ နှစ် (၄၀) (သို့မဟုတ်) လုပ်ငန်းဆက်လက်လုပ်ကိုင်ရန် နောက်ထပ်တိုးမြှင့်သော ကာလများ ပြီးဆုံးပါက အဆိုပါလမ်းနှင့် တံတားများ ၊ ဂိတ်များနှင့် အဆောက်အအုံများ ဖောက်လုပ်ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထား အတိုင်း **``လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ''** အား အဖိုးစားနား တစ်စုံတစ်ရာ မရှိဘဲ လွှဲပြောင်းပေးရမည်။

**စာချုပ်၏ အစိတ်အပိုင်းများ**

၂၁။ ဤစာချုပ်ပါ နောက်ဆက်တွဲများသည် စာချုပ်၏ အစိတ်အပိုင်းတစ်ရပ် ဖြစ်စေရမည်။

**ဆက်သွယ်ရန်လိပ်စာများ**

၂၂။ ပဋိညာဉ်စာချုပ်ဝင်များအကြား စာဖြင့် ရေးသားဆက်သွယ်ရန် လိပ်စာမှာ အောက်ပါအတိုင်း ဖြစ်သည် -

ဆောက်လုပ်ရေးဝန်ကြီးဌာန
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
ရုံးအမှတ် (၁၁)
နေပြည်တော်။

နှင့်

ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်
အမှတ် (၁၈၉/၁၉၁)၊ မဟာဗန္ဓုလလမ်း ၊ ဗိုလ်တထောင်မြို့နယ် ၊ ရန်ကုန်မြို့။

**ပဋိညာဉ်စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့နှင့်သက်တမ်းကာလ**

၂၃။ အောက်ဖော်ပြပါအတိုင်း ဖြစ်ပါသည် -

(က) ဤပဋိညာဉ်စာချုပ်သည် စာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက်တရားဝင် အတည်ပြုလက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

(ခ) ဤပဋိညာဉ်စာချုပ်၏ သက်တမ်းကာလမှာ နှစ် (၄၀) ဖြစ်ပြီး သက်တမ်းကို ရေတွက်ရာတွင် ခွင့်ပြုသတ်မှတ်ပေးထားသည့် လုပ်ငန်းကာလ (၃) နှစ်အထိ ပဋိညာဉ်စာချုပ် အပိုဒ် ၂ ပါ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အပြီးဆောင်ရွက်ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်းကာလ (၃)နှစ် ထက်စော၍ ပြီးစီးပြီး လုပ်ငန်းအပြီးသတ်ဆောင်ရွက်ပြီးစီးမှုလက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ်အနက် စောရာနေ့ရက်ကာလမှ စတင်ရေတွက်သတ်မှတ်ရမည်။

(ဂ) ပဋိညာဉ်သက်တမ်းကာလ ဆက်လက်တိုးမြှင့်လိုပါက ပဋိညာဉ်သက်တမ်းကာလ မစေ့ရောက်မီ (၆) လကြိုတင်၍ **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** မှ **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"**ထံ တင်ပြ၍ နှစ်ဖက်သဘောတူပါက (၁) ကြိမ်လျှင် (၅) နှစ်စီဖြင့် (၃) ကြိမ် တိုးမြှင့်နိုင်သည်။

**စာချုပ်အစားထိုးပယ်ဖျက်ခြင်း**

၂၄။ ဤပဋိညာဉ်စာချုပ်သည် ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၂၆-၃-၂၀၀၈) ရက်စွဲပါ အစည်းအဝေးအမှတ်စဉ် (၁၃/၂၀၀၈) ဆုံးဖြတ်ချက်ပါ လမ်းညွှန်ချက်များနှင့်အညီ ချုပ်ဆိုရခြင်းဖြစ်ပါသည်။ ရန်ကုန်-ပြည်-မကွေးအပိုင်း (ကိုးပင်-စမ်းမကြီး-သစ်ရာကောက်လမ်းပိုင်းအပါအဝင်) နှင့် စပ်လျဉ်း၍ (၁-၄-၂၀၀၈) ရက်နေ့က ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် မြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်တို့ ချုပ်ဆိုခဲ့သော B.O.T စာချုပ်၊ ကန်ထရိုက်နံပါတ် (၂၀၀၈-၀၉/ဘီအိုတီ/၁၁) ကို ဤစာချုပ်ဖြင့် အစားထိုးပယ်ဖျက်ကြောင်း နှစ်ဖက်သဘောတူကြပါသည်။

**စာချုပ်လက်မှတ်ရေးထိုးခြင်း**

၂၅။ ဤစာချုပ်ဝင်များသည် ဤစာချုပ်ပါ စည်းကမ်းချက်များကို ကိုယ်တိုင်ဖတ်ရှုသိရှိပြီး အောက်ပါအသိသက်သေများရှေ့မှောက်၌ ၂၀၁၀ ခုနှစ် ၊ လ (  ) ရက်တွင် ဤစာချုပ်ကို လက်မှတ်ရေးထိုးကြပါသည်။

ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
(**လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ**) အတွက်နှင့်
ကိုယ်စားလက်မှတ်ရေးထိုးသူ

(ဦးခင်မောင်ဆယ်)
ဦးဆောင်ညွှန်ကြားရေးမှူး

ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်
(**လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ**) အတွက်နှင့်
ကိုယ်စားလက်မှတ်ရေးထိုးသူ

(ဗိုလ်ချုပ်ဝင်းသန်း)
မန်နေးဂျင်းဒါရိုက်တာ
မှတ်ပုံတင်အမှတ် ------------------

**<u>အသိသက်သေများ</u>**

အမည် ----------------------
မှတ်ပုံတင်အမှတ် ---------------
ရာထူး ----------------------

အမည် ----------------------
မှတ်ပုံတင်အမှတ် ---------------
ရာထူး ----------------------

နောက်ဆက်တွဲ (က)

# နည်းပညာဆိုင်ရာ စံညွှန်းသတ်မှတ်ချက်များ

# TECHNICAL SPECIFICATIONS

In general, the Geometric Design Criteria and Standards to be adopted shall be guided by the traffic volume and to a reasonable level of service. All works shall be constructed to specification and to acceptable engineering standards.

The following Geometric Design Criteria and Standards shall be followed -

| | | |
|---|---|---|
| 1. Design Speed (m.p.h) | | |
| Rural Areas | 50 | |
| Urban Areas | 40 | |
| 2. Number of Lanes | 2 | ( Asphalt Concrete ) |
| 3. Width of each lanes (feet) | 12' | |
| 4. Right of way (feet) | 200' | |
| 5. Width of shoulder (feet) (Hard Shoulders) | 4'~7' | |
| 6. Width of formation (feet) | 80' | |
| 7. Maximum Grade (%) | 4 | |
| 8. Vertical Clearance (feet) | 17 | |
| 9. Bridge Loading | AASHTO HS 20-44 | |
| 10. Pavement Load (Maximum) | 60 tons | |

နောက်ဆက်တွဲ ( ခ )( ၁ )

လမ်း – တံတား အသုံးပြုခကောက်ခံရန်ဂိတ်များ

၁ ။ **လမ်းအသုံးပြုခကောက်ခံရန်ဂိတ်များ**

(က) ထောက်ကြံ့တွင် (၁)ဂိတ်

(ခ) အမှတ်(၄)လမ်းဆုံလမ်းတွင် (၁)ဂိတ်

(ဂ) တိုက်ကြီးတွင် (၁)ဂိတ်

(ဃ) သာယာဝတီတွင် (၁)ဂိတ်

(င) နတ်တလင်းတွင် (၁)ဂိတ်

(စ) ပြည်တွင် (၁)ဂိတ်

(ဆ) အောင်လံတွင် (၁)ဂိတ်

(ဇ) ကုက္ကိုခွတွင် (၁)ဂိတ်

(ဈ) သစ်ရာကောက်တွင် (၁)ဂိတ်

(ည) မကွေးတွင် (၁)ဂိတ်

လမ်းတစ်မိုင်နှုန်းအပေါ်အခြေခံ၍ လမ်းအသုံးပြုခကောက်ခံသွားရန်။

၂။ တံတားအသုံးပြုခကောက်ခံရန်ဂိတ်များ

"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သည် ခွင့်ပြုထားသောလမ်းအပိုင်းပေါ်ရှိ တံတားများအသုံးပြုခကို ကောက်ခံရာတွင် ပေ(၁၈၀)နှင့်အထက်ရှည်သည့်တံတားများအတွက် နိုင်ငံတော်မှတည်ဆောက်ထားသော တံတားများအား လေလံစနစ်ဖြင့်လည်းကောင်း၊ သက်ဆိုင်ရာကုမ္ပဏီ၏ရန်ပုံငွေဖြင့် တည်ဆောက်သော တံတားများအတွက် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" နှင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" တို့၏ ညှိနှိုင်းသဘောတူညီသည့် နှုန်းထားဖြင့်သာ ကောက်ခံရန်ဖြစ်သည်။၏

**ရန်ကုန်–ပြည်–မန္တလေးလမ်း(ရန်ကုန်–ပြည်–မကွေးအပိုင်း)လမ်းပေါ်ရှိ ပေ(၁၈၀)နှင့်အထက်တံတားစာရင်း**

| စဉ် | တံတားအမှတ် | တည်နေရာ(မိုင်) | တံတားအမျိုးအစား | အရှည်(ပေ) | ကုမ္ပဏီအမည် | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁ | ၄/ ၇၇ (သုံးဆယ်) | ၇၆/၅–၆ | ကွန်ကရစ် | ၃၀၀´ | ဦးပိုင် | သာယာဝတီမြို့နယ် |
| ၂ | ၃/ ၈၉ (ကျွန်းကလေး) | ၈၈/၆–၇ | ကွန်ကရစ် | ၂၂၀´ | ဦးပိုင် | (မိုင်၇၀/၆ မှ ၈၆/၂ ထိ) |
| ၃ | ဘိုးသာအောင်ကုန်း | ၁၃၉/ ၇ | ကွန်ကရစ် | ၂၅၀´ | ဦးပိုင် | ပေါင်းတည်မြို့နယ် |
| | ၂/၁၄၀ | | | | ဦးပိုင် | ပေါင်းတည်မြို့နယ် |
| ၄ | ၆/၁၄၈ | ၁၄၇/၆–၇ | ကွန်ကရစ် | ၁၈၀´ | ဦးပိုင် | သဲကုန်းမြို့နယ် |
| | ဝက်ပုတ်တံတား | | | | ဦးပိုင် | (၁၄၆/၆–၁၅၉/၀) |
| ၅ | ၁/၁၈၅ | ၁၈၄/၆–၇ | R.P.T | ၂၁၅.၇၅´ | ဦးပိုင် | ပြည်မြို့နယ် |
| ၆ | ၄/ ၂၁၂ | ၂၁၁/၆–၂၁၁/ ၇ | သံကူကွန်ကရစ် | ၁၇၇´ | ဦးပိုင် | (ဘွက်ကြီးတံတား) |
| ၇ | ၂/ ၂၂၇ | ၂၂၆/ ၂–၂၂၆/ ၃ | သံကူကွန်ကရစ် | ၂၇၆´ | ပ.ဆ.င | တံတားအထူးအဖွဲ့–၁၃ |
| ၈ | ၄/ ၂၅၃ | ၂၅၂/၆ | ကွန်ကရစ် | ၄၃၆´ | ဦးပိုင် | (ကိုးပင်) |
| ၉ | ၁/ ၂၆၈ | ၂၆၇/၀–၂၆၇/၁ | ကွန်ကရစ် | ၂၆၅´ | ဦးပိုင် | (ရန်ပယ်ချောင်း)ဝက္ကသေး |
| ၁၀ | ၄/ ၂၉၂ | ၂၉၂/၀ | သံကူကွန်ကရစ် | ၆၄၂´ | ဦးပိုင် | (ရန်ပယ်ချောင်း)ဝက္ကသေး |
| | ကုက္ကိုခွတံတား | | | | | |
| ၁၁ | ၁/ ၂၉၃ | ၂၉၁/၅–၂၉၁/၅ | ဂျာမန်သံဘောင် | ၂၄၀´ | ပ.ဆ.င | မကွေးမြို့နယ် |
| | တောင်ဦးချောင်းတံတား | | | | | (၂၉၂/၀–၃၃၁/၀) |
| ၁၂ | ၄/ ၃၁၇ | ၃၁၆/ ၂–၃ | ဂျာမန်သံဘောင် | ၄၈၀´ | ဦးပိုင် | (ယင်းချောင်းတံတား) |

**ကိုးပင်–စမ်းမကြီး–သစ်ရာကောက်လမ်းပေါ်ရှိ ပေ(၁၈၀)နှင့်အထက်တံတား**

ပေ(၁၈၀)နှင့်အထက်တံတားများမရှိပါ။

တံတားအသုံးပြုခကို နီးစပ်ရာလမ်းအသုံးပြုခကောက်ခံသည့်ဂိတ်တွင် တစ်ပေါင်းတည်း ကောက်ခံသွားရန်။

# ရန်ကုန် – ပြည် – မကွေးလမ်း (၃၄၀/၂½) မိုင်




၁၅၇/၁

၁၈၃/၆½

(ပြည်မြို့ရှောင်လမ်း

+

အမှတ်(၄) လမ်းမကြီး

အပါအဝင်)




SECTION OF ROAD

## MATERIAL AND LAYER SPECIFICATIONS AND CONSTRUCTION TECHNIQUE FOR CONSTRUCTION OF ASPHALT CONCRETE SURFACE COURSE

| SPECIFICATIONS | | CONSTRUCTION TECHNIQUE | QUALITY CONTROL |
|---|---|---|---|
| MATERIAL | LAYER | | |
| 1. Coarse Aggregates:-<br>Coarse aggregate shall consist of hard,durable fragment of rock whose properties shall be within the following limits:-<br>- Specific gravity 2.5 - 3.0<br>- Silt and Clay content (%) ≯ 1.0<br>- Los Angeles Abrasion (%) ≯25.0<br>- Crushing Value (%) ≯25.0<br>- Absorption (%) ≯ 2.0<br>- Flakiness Index (%) ≯30.0<br><br>2. File Aggregates:-<br>(a) Natural Sand or crushed rock fine(< 2.36mm) shall be used.<br>(b) Properties of fine aggregates shall be within the following limits:- | 1. Asphalt concrete mixture.<br>shall be design by the Marshall Method to have the following properties.<br>- No. of blows on each end of the specimen = 75<br>- Stability(lb)> 1800<br>- Flow (0.01") = 8-16<br>- % air voids = 3-4<br>- % voids in mineral aggregate<br>- Bitumen Content<br>(% voids in mineral aggregate and Bitumen Content: shall be specified by the mix design engineer)<br>2. Compacted. thickness<br>Average compacted thickness =Design thickness<br><br>Compacted thickness at any point > Design thickness-1/8" | - Prime the surface of the base course as specified.<br>- Preparation of aggregates . preparation of asphaltic concrete mixture, temperature control, transportation, placing , shovelling, raking and tamping after sprreading and compaction shall as specified in part C. Section 9, sub-section 9.8.3to 9.17of the ROAD. CONSTRUCTION SPECIFICATIONS, D.E.(ROADS), CONSTRUCTION, CORPORATION or as specified by the mix design engineer. | 1. Measurement of Marshal stability and flow:-<br>- Frequency of measurement = 1/500ft.<br><br>2. Measurement of compacted thickness<br>- Frequency of measurement = 1/100ft.<br><br>3. Measurement of camber and level<br>- Frequency of measurement =1/100ft |

## MATERIAL AND LAYER SPECIFICATIONS AND CONSTRUCTION TECHNIQUE FOR CONSTRUCTION OF ASPHALT CONCRETE SURFACE COURSE

| SPECIFICATION | | CONSTRUCTION TECHNIQUE | QUALITY CONTROL |
|---|---|---|---|
| MATERIAL | LAYER | | |
| - Specific gravity 2.6 - 2.8 | 3 Camber and Level. | - Measure Density | |
| - Silt and Clay content (%) ≯ 1.0 | - Deviation under 10' straight edge applied both parallel and right angle to the center of the pavement ≯ 1/8" | - Measure Compacted Thickness. | |
| - Absorption (%) ≯ 6.0 | - Level of the top surface ≯ specified level ≮ specified level -1/8" | - Measure Camber and level. Compacted layer which does not conform to layer specification shall be dug out, new mix produced and reconstructed. | |
| - Organic impurities(ppm) ≯ 500 | | | |
| - Passing 200 sieve (%) ≯ 4.0 | | | |
| - Fineness modulus 2.0 - 3.6 | | | |
| 3. Filler (≮ 0.075 mm)<br>- cement, hydrated lime, limestone dust and other rock dust free from silt and clay may be used.<br>- Filler used shall be throughly dry. | | | |
| 4. Binder<br>- 80/100 penetration grade bitumen shall be used. | | | |

MATERIAL AND LAYER SPECIFICATION AND CONSTRUCTION TECHNIQUE
FOR CONSTRUCTION OF SEMI-GROUT PENETRATION MACADAM SURFACE COURSE

## SPECIFICATION

### MATERIAL

**1. CRUSHED ROCK**

Crushed rock shall consist of hard, durable fragment of rock whose properties shall be within the following limit:-

| SIZE(mm) | % PASSING COARSE | KEYSTONE | CHIPPING |
|---|---|---|---|
| 67.50 | 100 | - | - |
| 50.00 | 95-100 | - | - |
| 37.50 | 35-70 | - | - |
| 25.00 | 0-15 | - | - |
| 20.00 | - | 100 | - |
| 12.50 | 0-5 | 90-100 | 100 |
| 9.50 | - | 0-70 | 85-100 |
| 5.00 | - | 0-15 | 10-30 |
| 2.36 | - | 0-5 | 0-16 |
| 1.18 | - | - | 0-5 |
| Application rate | | 48 Sq-Yd/ton | 120 Sq-Yd/ton |

Specific Gravity ——— = 2.5-3.0
Silt and Clay Content ———— N.G.T.2.0%
Los Angles Abrasion Value ——— N.G.T.40.0%
Crushing Value ———— N.G.T.30.0%
Absorption ———— N.G.T.2.0%
Flakiness Index ———— N.G.T.30.0%

**2. BITUMEN**

- 80/100 pen. grade bitumen shall be used.
- Rate of spray= 0.50-0.56gal/sq-yd (1st.application)
- Rate of spray = 0.22-0.3gal/sq-yd (2nd.application)
- Spraying Temperature = 165° C to 175° C

### LAYER

1. Grading and amount of coarse aggregate, keystone and chipping shall conform to material specification.
2. Compacted thickness :-
   - Average compacted thickness ---G.T.E. Design thickness
   - Compacted thickness at any point ---G.T.E.Design thickness-1/4"
3. Camber and Level:-
   - Deviation under 10' straight-edge applied both paralleled and right angled to the center line of the road --- N.G.T. 1/8"
   - Level of the top surface --- N.G.T. specified level --- N.L.T. specified level - 3/8"

Note:-
G.T.E. = Greater Than or Equal to
N.G.T. = Not Greater Than
N.L.T. = Not Less Than

## CONSTRUCTION TECHNIQUE

1. Spread coarse aggregate. Measure camber & level.
2. Compact with 8-10 tons smooth wheeled roller.
3. Spray bitumen uniformly.
   - Spraying temperature = 300° F - 350° F
   - Spraying rate = 0.50 - 0.56 gal/sq-yd
4. Spreading and rolling of keystone.
   - The keystone shall preferably be applied immediately after spraying bitumen in a number of application, the first being just sufficient to prevent the roller wheel sticking.
   - Then as rolling continues, further keystones shall be spread until all the voids in coarse aggregate layer have been filled without having any loose keystone on the surface of the coarse aggregate layer.
   - Rolling shall continue until keystones are thoroughly embedded into the voids of coarse aggregate layer and until there is little or no movement under the roller.
5. Broom excess Keystone. Check camber and level.
6. Spray bitumen for seal coat.
   - Spraying rate = 0.22 - 0.30 gal/sq-yd.
7. Spread chipping and roll with pneumatic tyred roller immediately after the application of butimen.
   - Approximate spreading rate =120sq-yd/ton
   - Rolling shall continue until the chippings are firmly embedded in the bituminous material.
8. Broom excess chipping. Measure camber and level. Surface course which does not conform to the specification shall be dug out, replaced and constructed to conform.

## QUALITY CONTROL

1. Measurement of grading of coarse aggregate, keystone and chipping.
   - Frequency of measurement = 1/ furl.
2. Measurement of bitumen spraying rate and temperature.
   - Frequency of measurement = 1/ furl.
3. Measurement of compacted thickness, camber and level.
   - Frequency of measurement = 1/100 ft.

In consultation with the Quality Control Engineer, frequency of measurement can be changed depending on the quality and uniformity of the construction.

# MATERIAL SPECIFICATIONS AND CONSTRUCTION TECHNIQUE FOR APPLICATION OF PRIME COAT

| Material | Construction Technique |
|---|---|
| 1. Either slow curing or medium curing cutback bitumen shall be used. | - Sweep dust , mud and foreign materials to clean the surface of the base course. |
| 2. Proportions of materials<br><br>(a) Medium curing cutback<br>- 55% to 65% of 80-100 penetration grade bitumen and 35% to 45% of the mixture of 3 parts kerosene and one part diesel<br><br>(b) Slow curing cutback<br>- 50% to 60% of 80-100 penetration grade bitumen and 40% - 50% of diesel | - Spray cutback bitumen uniformly to the dry surfacs of the base course at the rate of 0.1 to 0.25 gal/sq.yd. while the ambient temperature>55°F if raising or > 60°F if falling and while the weather is dry.<br><br>- Allow the prime coat to cure at least 24 hours or unitil it has penentrated the base satisfactorily.<br><br>- Never allow the traffic during the curing period. |
| 3. Application rate o.1 to 0.25 gallons / sq. yd. | - If bitumen has not been completely absorbed by the base course within 24 hours after the priming , light sand blinding shall be applied. |
| 4. Sand for blinding (if required)<br>- sand shall pass 3/16" sieve and shall be free from silt, clay and organic matter. | - Sweep all loose or excess sand. |

# MATERIAL AND LAYER SPECIFICATIONS AND CONTRUCTION TECHINIQUE FOR CONSTRUCTION OF WATER - BOUND MACADAM BASE COURSE

| SPECIFICATIONS | | CONSTRUCTION TECHINIQUE | QUALITY CONTROL |
|---|---|---|---|
| MATERIAL | LAYER | | |
| Crushed rock shall be used as base material.Grading and physical properties of coarse aggregate shall be as follows:-<br><br>Size — Percentage by Mass Passing<br>2 1/2" — 100<br>2" — 90 - 100<br>1 1/4" — 35 - 70<br>1" — 0 - 15<br>1/2" — 0 - 5<br><br>Specific Gravity = 2.5 - 3.0<br>Silt and Clay content ≯ 1.0 %<br>Los Angeles Abrasion value ≯ 40.0 %<br>Crushing Value ≯ 30 %<br>Absorption ≯ 4 %<br>Flakiness Index ≯ 30 %<br><br>Properties of stone screening shall be as follows:-<br>Size — Percentage by Mass passing<br>3/8" — 100<br>3/15" — 85 - 100<br>0.006" — 10 - 30<br><br>It shall be clean and devoid of clay or vegetable matter and plasticity index ≯ 6 | 1. CBR of compacted layer ≥ 80%<br><br>2. Compacted thickness<br><br>- Average compacted thickness ≥design thickness<br>- Compacted thickness at any point > design thickness-1/2"<br><br>3. Camber and level<br><br>- Gap under 10' straight edge applied both parallel and right angle to the centre line of the road ≯ 3/8"<br><br>- Level of the top most compacted surface<br>≯ specified level<br>≮ specified level -3/4" | 1. Spread bottom layer of stone screening -loose layer thickness =1"<br>2. Compact with 3-5 tons smooth wheeled roller.<br>3. Spread Coarse Aggregate Layer. (Loose layer thickness ≯ 4")<br>4. Check Camber.<br>5. Compact with 8 - 10 ton smooth wheeled roller.<br>6. Spread stone screenings. During the application of stone screenings rolling shall continue (if possible with vibrating roller) together with the spraying of water to cause stone screening fall into and fill the void space of the coarse aggregate. The filling shall continue placing and sweeping stone screening by hand where necessary until no more fines will go in and there is an excess on the surface of the loose layer just sufficient to form a wave infront of the roller. The amount of the grout shall be sufficient to fill all the remaining voids but only enough to produce a final mosaic.<br>7. Measure C.B.R of the layer.<br>8. Measure compacted thickness.<br>9. Measure camber and level.<br><br>Base course which does not conform with layer specification shall be dug out, adjusted and thoroughly compacted to conform. | 1. Measurement of CBR.<br><br>- Frequency of measurement = 1/500 sqft.<br><br>2. Measurement of compacted thickness.<br><br>- Frequency of measurement = 1/100 ft.<br><br>3. Measurement of camber and level.<br><br>- Frequency of measurement = 1/100 ft. |

အချိန်မတိုင်မီ ခုနှစ်ဆယ့်နှစ်နာရီအောက်မနည်း စော၍ ကုမ္ပ
မှတ်ပုံတင်ပြီး ရုံးတွင်တင်သွင်းပြီး ဖြစ်စေရမည်။ ထို့ အ ပြ
ကိုယ်စားလွှဲအပ်ခြင်း ခံရသူအား ခန့်ထားသည့် စာချုပ်စာတ
ပြုလုပ်တင်သွင်း ရန်ပျက်ကွက်လျှင် ယင်းကိုတရားဝင်သည် ဟု သ
မှတ်ခြင်း မခံထိုက်စေရ။

မဲပေးရန် ကိုယ်စားလှယ် လွှဲစာချုပ် ဆိုခြင်း။

၇၂။ ကိုယ်စားလှယ်လွှဲအပ်ခြင်း ခံရသူတစ်ဦး ဆိုင်ရာ စ
ချုပ်စာတမ်း တစ်စောင်သည် အောက်ဖော်ပြပါပုံစံအတိုင်း သေ
လည်း ကောင်း ၊ ဒါရိုက်တာများ လက်ခံနိုင်သောအခြား မည်သ
ပုံစံနှင့်မဆိုသော်လည်း ကောင်း ဖြစ်စေရမည်—

"ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတ

မဲပေးခွင့်ရ ကိုယ်စားလှယ် လွှဲအပ်ခြင်း ပုံစံ။

အထက်ဖော်ပြပါကုမ္ပဏီ၏အဖွဲ့ဝင် တစ် ဦး ဖြစ်သ
.........နေ၊ ကျွန်ုပ် .......သည် .........နေ
.........ကျောင်း ပမည်ဖြစ်သောကုမ္ပဏီ၏ (သာမန် သို့မဟု
အထူး ၊ ဆိုင်သင့်ရာရာ) အထွေထွေအစည်းအဝေး တွင် လည်
ကောင်း ၊ ရွှေ့ဆိုင်းထားသည့်အစည်းအဝေး တွင်လည်း မဲဆ
ပေးခွင့်ရှိသူကိုယ်စားလွှဲအပ်ခြင်း ခံရသူအဖြစ် ကျွန်ုပ်၏ကိုယ်စာ
.........နေ၊ .......အား ခန့်ထားလိုက်သည်။
......ခုနှစ်၊ .....လ ....ရက် နေ့တွ
လက်မှတ်ရေးထိုး ပါသည်။

## အဖွဲ့အစည်း၊ အခြားအဖွဲ့များ၏ကိုယ်စားလှယ်များ အဖြစ်ဆောင်ရွက်ခွင့်

အဖွဲ့ဝင်အဖြစ် ပါဝင်သောအဖွဲ့ အစည်းများအ နေနှင့်ကိုယ်စား

၇၃။ ကုမ္ပဏီ၏အဖွဲ့ဝင်ဖြစ်သောမည်သည့်အဖွဲ့ အစည်း မ ဆို
၎င်း၏ဒါရိုက်တာလူကြီး သို့မဟုတ် အုပ်ချုပ်ရေးအဖွဲ့၏ ဆုံးဖြတ်
ချက်အရ ၎င်းတို့သင့်တော်သည့်သူ သို့မဟုတ် သူများကို၎င်း၏ကိုယ်
စားပြုသူ သို့မဟုတ် ကိုယ်စားပြုသူများ အဖြစ် ဆောင်ရွက်ရန်

ကုမ္ပဏီအစည်းအဝေးသို့ စေလွှတ်နိုင်သည်။ ထို့အပြင်ကုမ္ပဏီ၏ အဖွဲ့ဝင် သို့မဟုတ် အခြားအတန်းစား အဖြစ်ပါဝင်သူနှင့် ထိုသို့ပါဝင်ရန်ခွင့် ပြုထားသည့်သူ သို့မဟုတ် သူများ သည်ကုမ္ပဏီ၏ ပုဂ္ဂလိကအဖွဲ့ဝင်ကဆောင် ရွက်နိုင်သည့်အာဏာများကိုယင်း အဖွဲ့အစည်း ကိုယ်စား ဆောင် ရွက်ခွင့်ရှိသည်။

ပြသူနှင့် ဆောင် ရွက်ခွင့်။

## ဒါရိုက်တာများ

၇၄။ ဒါရိုက်တာများ၏အရေအတွက်နှင့်ပထမဦးဆုံးသော ဒါရိုက်တာများ၏အမည်နာမများကိုယင်း ဖွဲ့မှတ်တမ်း အရ အစု ရှယ်ယာပါဝင်ရန်ကတိပြုသူများ တစ်ခုဖြင့် ရေးသား ဆုံးဖြတ်ရမည်။

ပထမဦးဆုံး ဒါရိုက်တာများ။

ကုမ္ပဏီ၏ပထမဦးဆုံး ဒါရိုက်တာများ မှာ အောက်ပါအတိုင်း ဖြစ်သည်-

၁။ ''က''အစုရှင်ကရွေးချယ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ ကာကွယ်ရေး ဝန်ကြီး ဌာန

| အမှတ်စဉ် | အမည် | ရာထူးအဆင့် | ဌာန | လိပ်စာ |
|---|---|---|---|---|
| (၁) | ဗိုလ်မှူးကြီး ဒီ၊ အို၊ အေဘယ်(လ်) | ဦးဆောင်ညွှန်ကြားရေးမှူး | ပစ္စည်းဝယ်ယူမှုညွှန်ကြားရေးမှူးရုံး | မော်ကွန်းတိုက်လမ်း ဒဂုံစာတိုက် ရန်ကုန်မြို့။ |
| (၂) | ဦးမြင့်ဆွေ | ဒုတိယအထွေထွေမန်နေဂျာ (ဝယ်ယူရေး) | ပစ္စည်းဝယ်ယူမှုညွှန်ကြားရေးမှူးရုံး | မော်ကွန်းတိုက်လမ်း ဒဂုံစာတိုက် ရန်ကုန်မြို့။ |

## ၂။ ``ခ`` အစုရှင်များက ရွေးချယ်သော

### (၁) တပ်မတော်စစ်မှုထမ်း

| အမှတ်စဉ် | အမည် | ရာထူး အဆင့် | ဌာန | လိပ်စာ |
|---|---|---|---|---|
| (၁) | ဗိုလ်မှူးကြီး သန်းဦး | စစ်ဥပဒေချုပ် | စစ်ဥပဒေချုပ်ရုံး | ကာကွယ်ရေးဝန်ကြီးဌာန |
| (၂) | ဗိုလ်မှူးကြီး ကျော်တင့် | တွဲဘက်စစ်ထောက်ချုပ် | စစ်ထောက်ချုပ်ရုံး | ကာကွယ်ရေးဝန်ကြီးဌာန |
| (၃) | ဗိုလ်မှူးကြီး မင်းသိန်း | တွဲဘက်စစ်ရေးချုပ် | စစ်ရေးချုပ်ရုံး | ကာကွယ်ရေးဝန်ကြီးဌာန |

### (၂) တပ်မတော်တပ်ရင်းများ သို့မဟုတ် တပ်မတော်အခြားအဖွဲ့အစည်းတစ်ခုခု

| အမှတ်စဉ် | အမည် | တပ်ရင်းသို့မဟုတ် တပ်မတော်အဖွဲ့အစည်းတစ်ခုခု အမည် | ဌာန/ တပ်ရင်း | လိပ်စာ |
|---|---|---|---|---|
| (၁) | ဗိုလ်မှူးချုပ် မျိုးညွန့် | ရန်ကုန်တိုင်းစစ်ဌာနချုပ် | ရန်ကုန်တိုင်းစစ်ဌာနချုပ် | ကုန်းမြင့်သာ ရန်ကုန်မြို့။ |
| (၂) | ဗိုလ်မှူးကြီး တင်ထွတ် | ကာကွယ်ရေးပစ္စည်းထုတ်လုပ်ရေးစစ်မှုထမ်းအဖွဲ့များ | ကာကွယ်ရေးပစ္စည်းထုတ်လုပ်မှုညွှန်ကြားရေးမှူးရုံး | ကာကွယ်ရေးဝန်ကြီးဌာန |
| (၃) | ဗိုလ်မှူးကြီး သိန်းထွန်း | စစ်လက်နက်ပစ္စည်းစစ်မှုထမ်းအဖွဲ့များ | စစ်လက်နက်ပစ္စည်းညွှန်ကြားရေးမှူးရုံး | ကာကွယ်ရေးဝန်ကြီးဌာန |

(၃) မြန်မာနိုင်ငံစစ်မှုထမ်းဟောင်းများအဖွဲ့ချုပ်

| အမှတ်စဉ် | အမည် | ယခင်ရာထူးအဆင့် | ယခင်ဌာန | လိပ်စာ |
|---|---|---|---|---|
| (၁) | ဗိုလ်မှူးကြီးအောင်ကြိုး (အငြိမ်းစား) | ဗိုလ်မှူးကြီး | စစ်သံမှူး ဝါရှင်တန် | စက်မှုစီမံကိန်း ဦးစီးဌာန ကမ္ဘာအေး ဘုရားလမ်း ရန်ကုန်မြို့။ |
| (၂) | ဗိုလ်မှူးကြီးမောင်မောင် (အငြိမ်းစား) | ဗိုလ်မှူးကြီး | - | ကုန်သွယ်ရေး ဝန်ကြီးဌာန |

ကုမ္ပဏီ၏ ဒါရိုက်တာများသည် (၁၄) ဦး ထက်မများ (၁၀) ဦး ထက်မနည်း စေရ၊ အောက်ပါအတိုင်း ဖြစ်ရမည် -

| ရွေးချယ်သူ | အများဆုံး | အနည်းဆုံး |
|---|---|---|
| "က" အစုရှင် | | |
| (၁) ပစ္စည်း ဝယ်ယူမှုညွှန်ကြားရေးမှူးရုံး ကာကွယ်ရေး ဝန်ကြီး ဌာန ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ | ၃ | ၂ |
| "ခ" အစုရှင်များ | | |
| (၂) တပ်မတော်စစ်မှုထမ်း | ၄ | ၃ |
| (၃) တပ်မတော်တပ်ရင်း တပ်ဖွဲ့များ သို့မဟုတ်တပ်မတော်အဖွဲ့အစည်း တစ်ခုခု | ၄ | ၃ |
| (၄) စစ်မှုထမ်း ဟောင်း များ (အဖွဲ့အစည်း/တစ်ဦးချင်း) | ၃ | ၂ |
| | ၁၄ | ၁၀ |

**ဒါရိုက်တာ အဖွဲ့ဥက္ကဋ္ဌ။**

ပြည်ထောင်စုမြန်မာနိုင်ငံတော် ``က'' အစုရှယ် များ ပိုင်ဆိုင်သူကာကွယ်ရေး ဝန်ကြီး ဌာနပစ္စည်း ဝယ်ယူ မှုညွှ ကြား ရေး မှူး ရုံး ကိုယ်စားလှယ်က ရွေး ချယ်ထား သည့်ဒါရိုက် များ မှပုဂ္ဂိုလ်သာလျှင်ဒါရိုက်တာအဖွဲ့ဥက္ကဋ္ဌဖြစ်ရမည်။

**ပူး တွဲ ဒါရိုက်တာ။**

ပူးတွဲဒါရိုက်တာများ ကို ကုမ္ပဏီများ အက် ဥပ ပုဒ်မ ၈၆ ပုဒ်မခွဲ (ခ)အရခန့်အပ်နိုင်သည်။

**ဒါရိုက်တာ များအတွက် ထောက်ပံ့ငွေ။**

၈၅။ ဒါရိုက်တာများ ၏တာဝန်ယူခြင်း အတွက်အခကြေး ထောက်ပံ့ခြင်း ကိုကုမ္ပဏီ၏အထွေထွေအစည်း အဝေး မှအခါအာ လျော်စွာ သတ်မှတ်ပေး ရမည်။

**ဒါရိုက်တာ တစ်ဦးဖြစ် ရန်ပိုင်ဆိုင် ရမည့်အစု ရှယ်ယာများ။**

၈၆။ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုး ရ ကာ ကွ ရေး ဝန်ကြီး ဌာန၊ ပစ္စည်း ဝယ်ယူမှုညွှန်ကြား ရေး မှူး ရုံး ရွေး ချယ်သည့် ဒါရိုက်တာတစ်ဦး သည်အရည်အချင်း ပြည့်ရန် မ သည့်အစုရှယ်ယာများ ကိုမှုပိုင်ဆိုင်ရန်မလို။

``ခ''အစုရှယ်ယာပိုင်ဆိုင်သူများ က ရွေး ချယ် သ ဒါရိုက်တာသည်၎င်း ကိုယ်စား ပြုသည့်အဖွဲ့အစည်း သို့မဟုတ် အ ဖွဲ့ အနေဖြင့်ဖြစ် စေ၊ ယင်း ၏အမည် ယင်း ၏အခွင့်အရေး အ ဖြစ် စေ၊ ကုမ္ပဏီတွင်သာမန်တန်ဖိုး ကျပ် ၁၀၀၀၀၀ / (ကျပ်တစ်သိန်း ) ရှိသော ``ခ''အစုရှယ်ယာ (၁၀၀) အနည်း ဆုံး ပိုင်ဆိုင်သူဖြစ်ရမည်။

## ဒါရိုက်တာများ ၏အာဏာနှင့်တာဝန်များ

**ကုမ္ပဏီ၏လုပ် ငန်း ကိုစီမံ ခန့် ခွဲရန် ဒါရိုက်တာ များ၏အ ထွေ ထွေအာဏာ။**

၈၈။ ကုမ္ပဏီ၏လုပ်ငန်း ကိုဒါရိုက်တာများ ကစီမံအုပ်ချုပ် မည်။ ထိုပုဂ္ဂိုလ်တို့သည်ကုမ္ပဏီကိုပြီး ထောင်ခြင်း နှင့် မှတ်ပုံ တ ခြင်း ကိစ္စရပ်အသီး သီး အတွက်ကုန်ကျစရိတ်အဖိုး အခ များ အာ လုံး ကို ပေး ချေနိုင်သည်။ ထို့အပြင်မြန်မာနိုင်ငံကုမ္ပဏီများ အက် ဥပဒေအရဖြစ် စေ၊ လတ်တလောအချိန်တွင်တည်ဆဲဖြစ် သောမည် သည့်ဥပဒေပြဋ္ဌာန်း ပြောင်း လဲချက်အရဖြစ် စေ၊ ဤသင်း ဖွဲ့ စည်း

နည်းများ အရဖြစ်စေ အထွေထွေအစည်းအဝေးကြီးတွင် ကုမ္ပဏီ ...ဆုံး ဖွဲ့ဆောင်ရွက်ရန်မလိုအပ် သောအာဏာများကိုယင်း ဒါရိုက် ...တာများ ကသုံး စွဲနိုင်သည်။ သို့ရာတွင်ထိုသို့ဖြစ်စေကာမူ ဤ စည်း ...နည်း အရသတ်မှတ်ချက်တစ်ခုကိုလည်း ကောင်း၊ အဆိုပါအက်ဥပဒေ ...ပြင်ဆင်ပြောင်းလဲချက်များ ကိုလည်း ကောင်း၊ အထွေထွေအစည်း ...အဝေးကြီး တွင်ကုမ္ပဏီကဆိုခဲ့သောဥပဒေပြဋ္ဌာန်းချက်များ နှင့် ...ကိုက်ညီခြင်း မရှိသည်လည်း မဟုတ်သောစည်းမျဉ်းများကို လည်း ...ကောင်း ဒါရိုက်တာများ ကလိုက်နာရမည်။ သို့ရာတွင် ကုမ္ပဏီက ...ချမှတ်သော မည်သည့်စည်းမျဉ်း ကမျှအဆိုပါစည်းမျဉ်းကို အထွေထွေ ...အစည်း အဝေး တွင်ပြုခဲ့သည်မဟုတ်လျှင်နိုင်လုံလိမ့်မည် ဖြစ် သော ...ဒါရိုက်တာများ ၏ယခင်ပြုလုပ်မှုတစ်ခုခုကိုမနိုင်လုံ သည် မ ဖြစ် ...စေရ။

မန်နေဂျင်း ဒါရိုက်တာသည် ကုမ္ပဏီ၏ဦး စီး အလုပ် မန်နေဂျာ ...မှုဆောင်ဖြစ်စေရမည်။ ထို့ပြင် ဒါရိုက်တာအဖွဲ့က ရွေးချယ် သို့ မ ဟုတ် ...ခန့်ထား ရမည်။ ၎င်းတို့သင့်လျော်သော အချိန် ကာ လ နှင့် မန်နေဂျင်း ...သင့်လျော်သော ထောက်ပံ့ကြေး (လခစား သို့မဟုတ် ကော်မရှင် ဒါရိုက်တာခန့် ...သို့မဟုတ် အမြတ်ဝေစုခံစား ခွင့် သို့မဟုတ် တစ်မျိုး စီကို တစ် ထားခြင်း။ ...ထက်တစ်ဒေသခံစား ခွင့်)ကို ၎င်းတို့ကသင့်လျော်သည် ဟု ထင် ...မြင်သည့်အတိုင်း ပေး၍ ခန့် ထား နိုင်သည်။ ထို့ပြင် ယင်း ...ခန့်ထား ခြင်း ခံရသော ဒါရိုက်တာတစ်ဦး သည် ထို ရာ ထူး ...တွင်ရှိနေသည့်ကာလအတွင်း အလှည့်ကျအနား ယူ စေ ခြင်း သော် ...လည်း ကောင်း၊ ထိုကဲ့သို့ အလှည့်ကျအနား ယူ စေ ရန်ထည့်သွင်း ...တွက်ချက်ခြင်း ...နည်း စား ဆုံး ဖြတ်ခံရခြင်း သော်လည်း ကောင်း မ ရှိစေရ။ ...သော်ထိုသူသည်အကြောင်း ကိစ္စတစ်ခုခုကြောင့် ဒါရိုက်တာတစ်ဦး ...ဖြစ်မှ အကယ်၍ရပ်စဲသွား စေလျှင်အဆိုပါခန့်ထား မှုကို ရှိရင်း ...ခြေအနေများ အပေါ်မူတည်၍ဆုံး ဖြတ်ရမည့်ကိစ္စရပ်ဟုမှတ် ယူ

ရမည် သို့မဟုတ် အဆိုပါပုဂ္ဂိုလ်၏မန်နေဂျင်း ဒါရိုက်တာရာ
လက်ရှိထား ခွင့်ကိုဖွက်ကိုအထွေထွေအစည်းအဝေး ကြီး မှ ဆုံး ဖြ
ပေး ရမည်။

ထုတ်ဝေပြီး မတည်ငွေရင်း ထက်ပိုလွန်သောအရေး ယူထားသည့် ကြွေးမြီ။

၃၀။ ယခုလတ်တလောအချိန်တွင် ဒါရိုက်တာများသည်ကု
အတွက် ချေး ငှား ယူခြင်း ဖြင့် သော်လည်း ကောင်း ၊ အခြာ
နည်း ဖြင့် သော်လည်း ကောင်း ၊ (အစုရှယ်ယာမတည်ငွေ ရ
ထုတ်ဝေခြင်း အပြင်) ရရှိထား သော ငွေကြေးအနက်မရှင်းလ
ရသေး သဖြင့်ကျန်ရှိနေသည့် ငွေပမာဏသည်မည်သည့်အချိန်၌မ
ကုမ္ပဏီ၏အထွေထွေအစည်းအဝေး၏ခွင့်ပြုချက်မရဘဲထုတ်ဝေပြ
သောအစုရှယ်ယာမတည်ငွေရင်း ထက်ပိုလွန်ခြင်း မရှိစေရ။

မှတ်ပုံတင် စာရင်းစသည်များပြုစုခြင်း ။

၃၉။ ဒါရိုက်တာများ သည် ၁၉၁၀ပြည့်နှစ်၊ အထူးကုမ္ပ
အက်ဥပဒေမြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ သို့ မဟု
ဆို့ခဲ့သော ဥပဒေပြုပြင် ပြောင်း လဲချက်များ အတိုင်းနည်း လ
တကျလိုက်နာပြီး ၊ ကုမ္ပဏီနှင့်ကုမ္ပဏီကဖန်တီး သောပစ္စည်း ဥစ္စ
များ ဆိုင်ရာ ပေါင်နှံခြင်း အခကြေး ငွေကိစ္စရပ်များ မှတ်ပုံ
တင်စာရင်း ပြုစုထား ခြင်း ကိုလည်း ကောင်း ၊ ဒါရိုက် တာ
များ စာရင်း ကိုမှတ်ပုံတင်ခြင်း တစ်ရပ်ပြုလုပ်ထား ခြင်း ကို
သော်လည်း ကောင်း ၊ မှတ်ပုံတင်အရာရှိထံအဖွဲ့ဝင်စာရင်း ကို
နှစ်စဉ်ပေး ပို့ခြင်း ကို သော်လည်း ကောင်း ၊ ယင်း ကိစ္စ ရပ်
များ ဆိုင်ရာအကြောင်း အကျဉ်း တစ် စောင်ကို လည်း ကောင်း
မတည်ငွေရင်း စုစည်း ခြင်း သို့မဟုတ် တိုး မြှင့်ခြင်း အ တွ
အသိပေး အကြောင်း ကြား စာ၊ နို့တစ်စာ ပေး ပို့ ခြင်း ကို
လည်း ကောင်း ၊ အထူး ဆုံး ဖြတ်ချက်မိတ္တူများ ပေး ပို့ခြင်းကိုလည်
ကောင်း ၊ ဒါရိုက်တာများ စာရင်း မိတ္တူတစ် စောင်ပေး ပို့ခြင်
ကိုလည်း ကောင်း ၊ အခြား အ ပြောင်း အလဲများဆိုင်ရာအကြောင်း
ကြား စာများ ပေး ပို့ခြင်း များ ကိုလည်း အထူး သ ဖြင့် ယင်း
ဥပဒေပြဋ္ဌာန်း ချက်များ နှင့်အညီပြုလုပ်ရမည်။

၀။ ဒါရိုက်တာများသည် အောက်ပါကိစ္စအတွက်ထားရှိသော အစည်းအဝေး စာအုပ်များတွင် ရေးသွင်းမှတ်တမ်းတင်ထားစေရမည်- (မှတ်တမ်းများ။)

(က) ဒါရိုက်တာများ ကအရာရှိများ ခန့်ထားခြင်း ကိစ္စအားလုံး ၊

(ခ) ဒါရိုက်တာများ၏အစည်းအဝေး အသီးသီးတွင်လည်းကောင်း ၊ ဒါရိုက်တာများ၏ မည်သည့် ကော်မတီမဆိုအစည်းအဝေး အသီးသီးတွင်လည်းကောင်း တက်ရောက်သော ဒါရိုက်တာများ၏အမည်များ ၊

(ဂ) ကုမ္ပဏီ၏အစည်းအဝေးများ ၊ ဒါရိုက်တာများ၏အစည်းအဝေးများ ၊ ဒါရိုက်တာများ၏ ကော်မတီများ အစည်းအဝေးအားလုံးတွင်ပြုလုပ်သော ဆုံးဖြတ်ချက်များ နှင့် ဆောင်ရွက်ချက်များ အားလုံး ။

ထိုပြင်မည်သည့်ဒါရိုက်တာများ အစည်းအဝေးသို့မဟုတ် ဒါရိုက်တာများ၏ ကော်မတီအစည်းအဝေးသို့တက်ရောက်သော ဒါရိုက်တာတိုင်းသည်ယင်းကိစ္စအလို့ငှာထားရှိသော စာအုပ်တွင် လက်မှတ်ရေးထိုးရမည်။

၁။ ကုမ္ပဏီ၏တံဆိပ်ကို ဒါရိုက်တာဘုတ်အဖွဲ့၏ဆုံးဖြတ်ချက်အရ တာဝန်ပေးအပ်ခြင်း ခံရသူဖြစ်စေ၊ ဒါရိုက်တာအနည်းဆုံးနှစ်ဦးနှင့်အတွင်းရေးမှူး သို့မဟုတ် ယင်းကိစ္စအလို့ငှာ ဒါရိုက်တာများကခန့်ထားသောအခြားပုဂ္ဂိုလ်ရှေ့မှောက်တွင် ဖြစ်စေမှတပါး မည်သည့်စာချုပ်စာတမ်းတစ်ခုခုတွင်မျှခတ်နှိပ်ခြင်းမပြုရ ဖော်ပြပါဒါရိုက်တာနှစ်ဦး နှင့်အတွင်းရေးမှူး သို့မဟုတ် (ကုမ္ပဏီတံဆိပ် ခတ်နှိပ်ရန် စည်းကမ်းများ။)

အဆိုပါ အခြား ပုဂ္ဂိုလ်တို့သည် မိမိတို့၏ ရှေ့မှောက်တွင်ကုမ္ပ
တံဆိပ်ကိုခတ်နှိပ်ထား သောစာချုပ်စာတမ်း တိုင်းတွင်မိ
တို့ရှေ့မှောက်၌ခတ်နှိပ်ကြောင်း လက်မှတ်ရေးထိုး ရမည်။

## ဒါရိုက်တာများ ခန့်ခြင်းနှင့်အရည်အချင်း ပျက်ယွင်းခြင်း

ဒါရိုက်တာ များခန့်အပ် ခြင်းနှင့်ပတ် သက်၍ကန့်သတ် ချက်များ ။

၈၂။ အဖွဲ့စည်းမျဉ်းများကို မှတ်ပုံတင်ခြင်း မပြု
လုပ်မှီ မှတ်ပုံတင်အရာရှိထံတွင် ဒါရိုက်တာအဖြစ် ဆောင်ရွ
ကို ကြောင်း စာဖြင့် လက်မှတ်ရေးထိုး၍တင်သွင်းသူ မဟုတ်
လျှင် အဖွဲ့စည်းမျဉ်းတွင် ဒါရိုက်တာအဖြစ်ခန့်အပ်ခြင်း မ
ပြုရ။

ဒါရိုက်တာ ရာထူးလစ်လပ် ခြင်း ။

၈၃။ ဒါရိုက်တာရာထူး သည်ဒါရိုက်တာ သို့ မဟုတ် ယင်း
ကိုယ်စားပြုသည့်အဖွဲ့ သို့မဟုတ် အဖွဲ့အစည်းနှင့်ပတ်သက်၍အောက်
ပါကိစ္စတစ်ခုခု ပေါ် ပေါက်လျှင်လစ်လပ် စေရမည်-

(က) ခန့်ထားပြီး နှစ်လအတွင်း ရာထူး ရယူ
ရန် သော်လည်း ကောင်း ၊ ထို့နောက်မည်
သည့်အချိန်မဆိုမိမိအား ဒါရိုက်တာ ရာထူး
ခန့်ထား ရန်အရည်အချင်း ပြည့်စုံစေရေး
အတွက်ပိုင်ဆိုင်ရန်လိုအပ် သောအစု ရှယ်ယ
အမျိုး အစား ( ရှိလျှင် ) ကိုမိမိက ပိုင် ဆို
ခြင်း မှရပ်စဲလျှင်၊

(ခ) စိတ် ပေါ့သွပ်သူဖြစ် ကြောင်း စီရင် ပိုင်ခွင့်
အာဏာရှိတရား ရုံး မှ တွေ့ရှိလျှင်၊

(ဂ) လူမွဲအဖြစ်စီရင်ခံရလျှင်၊

(ဃ) မိမိ သို့မဟုတ် မိမိကိုယ်စားပြုသော အဖွဲ့တစ်ခုခု သို့မဟုတ် အဖွဲ့အစည်း ပိုင်အစုရှယ်ယာများအပေါ် တောင်းခံခြင်းများကို တောင်းခံပြီးသည့်နေ့မှ ခြောက်လအတွင်း ပေးဆပ်ပုန်ပျက်ကွက်လျှင်၊

(င) ကုမ္ပဏီအထွေထွေအစည်းအဝေး၏ဆုံးဖြတ်ခွင့်ပြုချက်မရှိဘဲ မန်နေဂျင်းဒါရိုက်တာ သို့မဟုတ် မန်နေဂျာ သို့မဟုတ် ဥပဒေ သို့မဟုတ် ကျွမ်းကျင်မှုဆိုင်ရာအကြံပေး သို့မဟုတ် ငွေထိန်းမှတစ်ပါး ကုမ္ပဏီထံမှအခြားအကျိုးအမြတ်ရရှိနိုင်သောမည်သည့်ရာထူးကိုမဆို လက်ခံခြင်း သို့မဟုတ်တာဝန်ယူခြင်းကိုပြုလျှင်၊

(စ) ဒါရိုက်တာများ ဘုတ်အဖွဲ့ထံပျက်ကွက်ခြင်းအတွက် ခွင့်ပန်ခြင်းမရှိဘဲ ဒါရိုက်တာများအစည်းအဝေး သုံးကြိမ်ဆက်တိုက်တက်ရောက်ရန်ပျက်ကွက်ခြင်း သို့မဟုတ် ဒါရိုက်တာများအစည်းအဝေးအားလုံးကိုတစ်ဆက်တည်းဖြစ်သော သုံးလတာအထိတက်ရောက်ရန်ပျက်ကွက်ခြင်းတို့အနက်အချိန်ပို၍ကြာရှည်သောကိစ္စကို ကျူးလွန်လျှင်၊

(ဆ) ကုမ္ပဏီမှချေးငွေ သို့မဟုတ် အာမခံတစ်ခုလက်ခံရယူလျှင်၊

(ဇ) ကုမ္ပဏီနှင့်ပြုလုပ်သောကန်ထရိုက်တစ်ခုခု၏ အကျိုးအမြတ်နှင့်ဆက်စပ်နေလျှင်သို့မဟုတ်ပါဝင်ခံစားခြင်းရှိလာလျှင်၊

(ဈ) ခြောက်လထက်ပိုသောထောင်ဒဏ်ချမှတ်ခြင်းခံရလျှင်။

သို့ရာတွင် မည်သို့ပင်ဖြစ်စေကာမူ ဒါရိုက်တာ တစ်
သည် ဒါရိုက်တာများ၏ခွင့်ပြုချက်ဖြင့်ကုမ္ပဏီနှင့်ကန်ထရိုက် လုပ်ငန်း
သို့မဟုတ်လုပ်ငန်း ဆောင်ရွက်မှုပြုသောအခြား မည်သည့် ကုမ္ပ
သို့မဟုတ် အစုစပ်လုပ်ငန်း၏အစုဝင် သို့မဟုတ် အခြားသူတစ်
နှင့်စပ်တူလုပ်သောလုပ်ငန်းတွင်မဆိုအဖွဲ့ဝင်တစ်ဦး ဖြစ်နေရုံ
နှင့်အဆိုပါသူ၏ရာထူး နေရာလစ်လပ်စေရမည်ဟုမဖြစ်စေ ရ
ဒါရိုက်တာသည် ယင်းကန်ထရိုက် သို့မဟုတ် လုပ်ငန်း ဆောင်ရွ
တွင် သူမည်၍ မည်မျှပါဝင်ထားကြောင်း ဖော်ပြရမည်။ သို့သေ
ယင်းကိစ္စနှင့်ဆက်နွယ်နေသောမဲပေး မှုများတွင်သာမဲပေး
မရှိစေရ။ အကယ်၍မဲပေး မိလျှင် ယင်းမဲကို ရေတွက်ခြင်းမပြု

<u>ဒါရိုက်တာများအလှည့်ကျ ဆောင်ရွက်ခြင်း</u>

ဒါရိုက်တာများ နုတ်ထွက်ခြင်း။ ၈၄။ ကုမ္ပဏီ၏ပထမဦး ဆုံး သောသာမန်အစည်း အဝေး
ဒါရိုက်တာများ အားလုံး နုတ်ထွက် ပေး ရမည်။ ယင်း နောက်
စဉ်ကျင်း ပသော သာမန်အစည်း အဝေး တိုင်း တွင်ယင်း ကာ
ဆောင်ရွက်နေသော ဒါရိုက်တာများ၏သုံး ပုံတစ်ပုံသို့မဟုတ်အကယ်
အရေအတွက်သည် သုံး ဦး မဟုတ်လျှင် သို့မဟုတ် သုံး နှင့် စား
မပြတ်လျှင်အနီး စပ်ဆုံး သုံး ပုံတစ်ပုံဖြစ် သော ဒါရိုက်တာများ အ
အတွက်သည်နုတ်ထွက် ပေး ရမည်။

နုတ်ထွက်ရမည့် ဒါရိုက်တာများ ရွေးချယ်ခြင်း။ ၈၅။ ထိုသို့နှစ်စဉ်နှစ်တိုင်း ဒါရိုက်တာရာထူး မှ နုတ် ထွက်ပေ
ရမည့်ကိစ္စရပ်၌ထိုရာထူး တွင်အကြာဆုံး တည်ရှိနေသူ ဒါ ရိုက်တ
များ ဖြစ်လာသူများ အနက်မှ မည်သူနုတ်ထွက် ပေး ရမည် နည်း
သောကိစ္စ ပေါ် ပေါက်ခဲ့လျှင် (အချင်း ချင်း သ ဘောတူညီချက် အ
မှတစ်ပါး ) မဲနှိုက်၍ဆုံး ဖြတ်ရမည်။

**ပြန်လည်အရွေးချယ်ခံပိုင်ခွင့်။**

၆။ နုတ်ထွက်အနားယူသွားသော ဒါရိုက်တာတိုင်းသည် ပြန်လည်အရွေးချယ်ခံပိုင်ခွင့်ရှိစေရမည်။

**လစ်လပ်ရာထူးအတွက် အစားထိုးခြင်း။**

၇။ ကုမ္ပဏီသည် အထက်ဖော်ပြပါနည်းလမ်းအတိုင်း ဒါရိုက်တာတစ်ဦးကအစွေ့အစည်းအဝေးတွင် နုတ်ထွက်သွားသည့်အခါ ထိုအစည်းအဝေး၌ ပင်လစ်လပ်သွားသော ရာထူးနေရာကို ထိုအစုနှင့် "ခ" အစုရှင်တို့က အပိုဒ် ၇၄ တွင် ဖော်ပြထားသည့် အတိုင်း အများဆုံးနှင့် အနည်းဆုံး ဦးရေနှင့် အညီ တစ်ဦးအား အစားထိုးရွေးချယ်နိုင်သည်။

**မဖြည့်ဆည်းသေးသည့် လစ်လပ်ရာထူးများ။**

၈။ အကယ်၍ ဒါရိုက်တာများရွေးချယ်ခန့်ထားရမည် ဖြစ်သောမည်သည့်အစည်းအဝေး၌မဆို လစ်လပ်သွားသော ဒါရိုက်တာ ရာထူးနေရာများကို အောင်မြင်စွာဖြည့်ဆည်းခြင်း မပြုနိုင်ခဲ့ပါက၊ ထိုအစည်းအဝေးကို နောက်ရက်သတ္တပတ်သို့ထိုနေ့ရက်၊ ထိုနေ့တူ၊ ထိုအချိန်တူအတိုင်း ရွှေ့ဆိုင်းအစည်းအဝေးဆက်လက်ကျင်းပပေး၍၊ ယင်းအစည်းအဝေး၌လည်း လစ်လပ်ရာထူး ဖြည့်ဆည်းခြင်း မအောင်မြင်သေးပါက အဆိုပါလစ်လပ်သွားသော ရာထူးတွင် ဆောင်ရွက်ခဲ့သူ ဒါရိုက်တာများကို ပင်လျှင် ပြန်လည်ရွေးချယ်လိုက်သည်ဟု မှတ်ယူရမည်။

**ဒါရိုက်တာများ အရေအတွက်ကို ကုမ္ပဏီက တိုးမြှင့်သို့မဟုတ် လျှော့ချနိုင်ခြင်း။**

၉။ မြန်မာကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၃ က နှင့် ၈၄ ခ ပါပြဋ္ဌာန်းချက်များကိုလိုက်နာလျက် ကုမ္ပဏီသည် အထွေထွေ အစည်းအဝေးများတွင် ဒါရိုက်တာများ အရေအတွက်တိုး မြှင့်ခြင်း သို့မဟုတ် လျှော့ချခြင်းကို အခါအားလျော်စွာ ပြုပြင်ခွင့်ရှိပြီး အဆိုပါတိုးမြှင့်ခြင်း သို့မဟုတ် လျှော့ချခြင်း၌ မည်ကဲ့သို့ အလှည့်ကျ နုတ်ထွက်ရမည့် အရေအတွက်ကိုလည်း ပြင်ဆင်သတ်မှတ်ခွင့်ရှိသည်။ ထိုသို့ တိုးမြှင့်ခြင်း သို့မဟုတ် လျှော့ချခြင်း၌ ``က`` သို့မဟုတ် ``ခ`` အစုရှင်များ အနေဖြင့် တစ်ဘက်ဘက်မှ ရွေးချယ်ရမည့် အများဆုံး နှင့် အနည်းဆုံး ဒါရိုက်တာဦးရေကို သတ်မှတ်သည့် စည်းမျဉ်း ၇၄ နှင့် မညီသို့မှု မဆန့်ကျင်စေရ။

**ရှောင်တခင် လစ်လပ်သော ရာထူးတွင် ဒါရိုက်တာများ ကအစားထိုး နိုင်ခြင်း။**

၉၀။ မည်သည့် ရှောင်တခင် ပေါ် ပေါက်လာသော ဒါရိုက်တ
ဘုတ်အဖွဲ့ဝင်ရာထူး နေရာလစ်လပ်ခြင်း တစ်ခုခုအတွက်မဆို ဒါရို
တာများ ကဖြည့်ဆည်း နိုင်ခွင့်ရှိသည်။ သို့သော်ထိုသို့ဖြည့်ဆည်း ရွေး
ချယ်လိုက်သော ဒါရိုက်တာသည် နှုတ်ထွက်ခြင်း အလို့ငှာထိုသူ ရွေးချ
ခံရသော နေရာတွင်မူလ ဒါရိုက်တာ ဟောင်း ရှိခဲ့လျှင် နှုတ်ထွက်ရ
ရမည့်ကာလအတိုင်း သာဖြစ်ရမည်။

**တွဲဖက်ဒါရိုက်တာ ခန့်ထားရန် ဒါရိုက်တာများ၏ အာဏာ။**

၉၁။ ဒါရိုက်တာများ သည်မည်သည့်အချိန်၌ မဆိုအခါ အာ
လျော်စွာ တွဲဖက်ဒါရိုက်တာအဖြစ် ပုဂ္ဂိုလ်တစ်ဦး အား ခန့်ထား ပို
ခွင့်အာဏာ ရှိရမည်။ ထိုတွဲဖက် ဒါရိုက်တာသည် နောက်တစ်ကြိမ်အ
လက်ကျရောက် သောသာမန်အထွေထွေအစည်း အဝေး ကြီး၌ နှု
ထွက်ပေး ရမည်။ သို့သော်ထိုအစည်း အဝေး၌ တွဲဖက် ဒါရိုက်တ
တစ်ဦး အဖြစ်ကုမ္ပဏီက ရွေး ချယ်ခန့်ထား ပိုင်ခွင့်ရှိ စေရမည်။

**ဒါရိုက်တာများ အား ထုတ်ပယ်ခြင်း။**

၉၂။ ကုမ္ပဏီသည် မည်သည့် ဒါရိုက်တာတစ်ဦး ကိုမဆို ထို သူ
ရာထူး သက်တမ်း မကုန်ဆုံး မီအထူး ဆုံးဖြတ်ချက်ဖြင့် ထုတ်ပယ်နို
ပြီး ထိုရာထူး အတွက် အခြား ပုဂ္ဂိုလ် တစ်ဦး ကို သာမ
ဆုံးဖြတ်ချက်ဖြင့် ထိုသူအစား ခန့်ထား နိုင်သည်။ သို့သော် ထို
ခန့်ထားခြင်း ခံရသူ ဒါရိုက်တာ၏ ရာထူး သက်တမ်း သည် မိ
အစား ဝင်ရောက်လာသော နေရာတွင် ဆောင်ရွက်ခဲ့ သော
ဒါရိုက်တာ၏ ရာထူး သက်တမ်း အတိုင်း သာဖြစ်သည်။

## ဒါရိုက်တာများ၏ဆောင်ရွက်ချက်များ

၁။ ဒါရိုက်တာများသည် မိမိတို့ သင့်လျော်သည်ဟုထင်မြင် ညအတိုင်း လုပ်ငန်း ဆောင်ရွက်ရေး အတွက်အတုတကွစည်းဝေး ၍ မိမိတို့၏ အစည်းအဝေးများကို ရွှေ့ဆိုင်းခြင်း ခြားနည်းဖြင့် သတ်မှတ်လျက် အစည်းအဝေးများပြု ဝနိုင်သည်။ မည်သည့်အစည်းအဝေးတွင်မဆို ပေါ် ပေါက် သော ပြဿနာများကို မဲများရာဖြင့် ဆုံးဖြတ်ရမည်။ ဆုံးဖြတ်ရာ၌ မဲအရေအတွက်ခြင်း တူညီနေသည့်ကိစ္စရပ်၌ ဥက္ကဋ္ဌသည် ဒုတိယ သို့မဟုတ် ဆုံးဖြတ်မဲပေးပိုင်ခွင့် ရှိ သည်။ မည်သည့် အချိန်၌မဆို ဒါရိုက်တာ တစ်ဦးဦး၏တောင်း ချက်အရ ဒါရိုက်တာများ အစည်းအဝေးကိုအတွင်းရေးမှူး ခေါ်ပေးရမည်။ သို့မဟုတ် ဒါရိုက်တာ တစ်ဦး က ခေါ် နိုင်သည်။

ဒါရိုက်တာများ၏ အစည်းအဝေးများ။

၂။ ဒါရိုက်တာများ၏လုပ်ငန်း ဆောင်ရွက်မှု အစည်း အဝေး အထမြောက်စေရေး အတွက် လိုအပ်သော ဦးရေကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။ ထိုသို့ သတ်မှတ်ထားခြင်း မရှိလျှင် လက်ရှိ ဒါရိုက်တာဦးရေ၏အနည်းဆုံး ငါးဆယ်ရာခိုင် နှုန်း ဖြစ်ပြီး ယင်းတို့အနက်အနည်းဆုံး ထက်ဝက်သည် ပ စ္စည်း ထိန်းသိမ်းရန်ကြားရေးမှူး ရုံးက ရွေးချယ်သောသူများ ဖြစ် ရမည်။ ထိုသို့တွက်ချက်ရာ၌အပိုင်းဂဏန်းများကို ကိန်းပြည့် အဖြစ်တွက်ချက်ရမည်။

အစည်းအဝေး အထမြောက်စေမည့် ဦးရေ။

**အစည်းအဝေး အထမြောက်စေမည့် ဦးရေ အောက်လျော့နည်းသည့်အခါ ဆက်လက်ဆောင်ရွက်နေသော ဒါရိုက်တာ၏ လုပ်ပိုင်ခွင့် ခွင့်နှင့်ကန့်သတ်ချက် ။**

၄၅။ ဆက်လက်ဆောင်ရွက်နေသောဒါရိုက်တာများ သ မိမိတို့အဖွဲ့ဝင် လစ်လပ်ခြင်းတစ်ခုခုရှိစေကာမူ ဆောင်ရွ နိုင်သည်။ သို့ရာတွင် ထိုသူတို့၏ ဦးရေသည် ဒါရိုက်တာမျာ အစည်းအဝေး အထမြောက်စေရန် ဦးရေအဖြစ်ဖြင့်ဤစည် မျဉ်းကသတ်မှတ်ထားသော သို့မဟုတ် စည်းမျဉ်းကို လိုက်န ရသော ဦးရေ အောက်လျော့နေလျှင် လည်းကောင်း လျော့နေသမျှကာလပတ်လုံး လည်းကောင်း ဆက်လက်ဆော ရွက်နေသော ဒါရိုက်တာများသည် အဆိုပါ ဦးရေ အ ဒါရိုက်တာများ ဦးရေကိုတိုးမြှင့်ခြင်း သို့မဟုတ် ကုမ္ပဏီအ တွေ့အစည်းအဝေးတစ်ရပ်ခေါ်ဆိုခြင်း အလို့ငှာ ဆောင်ရွ နိုင်သည်။ အခြားကိစ္စအလို့ငှာ ဆောင်ရွက်နိုင်ခွင့်မရှိ။

**သဘာပတိကို ဒါရိုက်တာများက ရွေးချယ်နိုင်ခြင်း ။**

၄၆။ ဒါရိုက်တာများသည် မိမိတို့၏အစည်းအဝေး သဘာ ပတိကိုပစ္စည်းဝယ်ယူမှုညွှန်ကြားရေးမှုရုံးကတင်မြှောက်သည့်ဒါရို တာများနက်မှ ရွေးချယ်ရမည့်အပြင်ထိုရာထူး လက်ရှိထားရ ဖြစ်သောကာလအပိုင်းအခြားကိုသတ်မှတ်ရမည်။ သို့ရာတွင်အဆို သဘာပတိကိုရွေးချယ်ထားသည်မဟုတ်လျှင် သို့မဟုတ် အစည်း အဝေးတစ်ခုခုတွင်ကျင်းပရန်သတ်မှတ်ထားသည့်အချိန် ရော ရှိပြီး ငါးမိနစ်အတွင်း သဘာပတိအဖြစ်ဆောင်ရွက်ရန်မရော လျှင်၊ တက်ရောက်သောဒါရိုက်တာများသည်အလှည့်ကျ သဘာပတိ ကိုအစည်းအဝေး၏သဘာပတိအဖြစ်ရွေးချယ်စေရမည်။ သဘာ ပတိနှင့်အလှည့်ကျသဘာပတိသည်ပစ္စည်းဝယ်ယူမှုညွှန်ကြားရေးမှု ရုံးကရွေးချယ်တင်မြှောက်သည့်ဒါရိုက်တာများထဲမှ မည်သူမဆို ဖြစ်ရမည်။

ကော်မတီများ သို့လွှဲထား နိုင် သည့်အာဏာ။

၉၇။ ဒါရိုက်တာများ သည်မိမိတို့၏မည်သည့်အာဏာများကို မဆိုမိမိတို့သင့် လျော်သည်ထင်မြင်သည့်အဖွဲ့ဝင် သို့မဟုတ်အဖွဲ့ဝင် များ ပါဝင် သော ကော်မတီများ သို့လွှဲအပ်နိုင်သည်။ ထို သို့လွှဲ အပ်ထား သောအာဏာများ ကိုသုံး စွဲ ဆောင်ရွက်ရာတွင် ထိုသို့ ဖွဲ့စည်း ထား သည့်မည်သည့် ကော်မတီမဆိုဒါရိုက်တာများ ကထို သူ တို့အ ပေါ်တွင်တာဝန် ပေး ထား သည့်စည်း မျဉ်း များ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

ကော်မတီ တ[illegible] ပတိ [illegible] ရွေးချယ်နိုင် [illegible]။

၉၈။ ကော်မတီတစ်ခုသည်မိမိတို့အစည်း အဝေးသဘာပတိ ကို ရွေး ချယ်ထား နိုင်သည်။ ထိုသို့ ရွေး ချယ်မထား လျှင်သို့မဟုတ် ရွေး ချယ်ထား သောသဘာပတိကအဆိုပါအစည်း အဝေး ကျင်း ပ ရန်သတ်မှတ်ချိန် ရောက်ရှိပြီး ငါး မိနစ်အတွင်း သဘာပတိအဖြစ် ဆောင်ရွက်ရန် ရောက်ရှိမလာလျှင်တက် ရောက်သူအဖွဲ့ များအ နက်မှတစ်ဦး ဦး ကိုသဘာပတိအဖြစ် ရွေး ချယ်နိုင်သည်။

ကော်မတီ အ[illegible] အဝေး [illegible] ဆောင် [illegible] ချက်များ။

၉၉။ ကော်မတီတစ်ခုသည်သင့် လျော်သည်ဟုယူဆသည့်အ တိုင်း တွေ့ဆုံစည်း ဝေး ခြင်း နှင့် ရွှေ့ဆိုင်း ခြင်း တို့ကိုပြုလုပ်နိုင်သည်။ မည်သည့်အစည်း အ ဝေး တွင်မဆိုဆုံး ဖြတ်ရန်အ ကြောင်း ကိ စ္စ ပေါ် ပေါက် လာသောကိစ္စရပ်များ ကိုမဲများ ရာဖြင့်ဆုံး ဖြတ် ရ မည်။ ထို့ပြင်အကယ်၍မဲအ ရေအတွက်တူညီ နေပါကသဘာပတိသည် ဒုတိယ သို့မဟုတ် ဆုံး ဖြတ်မဲ ပေး ပိုင်ခွင့်ရှိရမည်။

[illegible] ဖြတ်တာများ [illegible] မရှိသော်ဖြစ် [illegible] ချွတ်ယွင်း [illegible] များကြောင့် [illegible] တို့ ၏ [illegible] ဆောင်ရွက်ချက် [illegible] ပျက်ပြယ် [illegible] မဖြစ်ခြင်း။

၁၀၀။ ဒါရိုက်တာများ ၏မည်သည့်အစည်း အ ဝေး က မ ဆို သို့မဟုတ် ဒါရိုက်တာများ ၏ ကော်မတီတစ်ခုခု၏အစည်း အ ဝေး က သို့မဟုတ် ဒါရိုက်တာတစ်ဦး အဖြစ် ဆောင်ရွက် နေ သော မည်သည့်ပုဂ္ဂိုလ်ကမဆိုပြုလုပ် သော ဆောင်ရွက်ချက်များ အား လုံး သည် အဆိုပါမည်သည့်ဒါရိုက်တာကိုမဆို သို့မဟုတ် အထက်ဆိုခဲ့ သည့် အတိုင်း ဆောင်ရွက် နေ သော ပုဂ္ဂိုလ်များ ၌မည်သူ့ကိုမဆိုခန့်ထား ရာတွင်ချွတ်ယွင်း ချက်တစ်ခုခုရှိခဲ့ကြောင်း သို့မဟုတ် အ ဆို ပါ

သူတို့အားလုံးကိုသော်လည်းကောင်း၊ ထိုသူတို့အနက်တစ်ဦးဦးကိုသော်လည်းကောင်း အရည်အချင်းပျက်ယွင်းခဲ့ကြောင်းနောင်အခါတွင် တွေ့သိစေကာမူ အဆိုပါသူတစ်ဦးသည်ကျနစွာခန့်ထားခြင်းခံရ၍အရည်အချင်းပြည့်စုံသောဒါရိုက်တာတစ်ဦးဖြစ်ဘိသကဲ့သို့ခိုင်လုံစေရမည်။

## အမြတ်ဝေစုများနှင့်အီးသန့်ရန်ပုံငွေ

၁၀၁။ ကုမ္ပဏီသည်အထွေထွေအစည်းအဝေးတွင်အမြတ်ဝေစုများကိုကြေညာနိုင်သည်။ သို့ရာတွင်ဒါရိုက်တာများကထောက်ခံသောပမာဏထက်မည်သည့်အမြတ်ဝေစုကမျှမပိုစေရ။

၁၀၂။ ဒါရိုက်တာများသည်ကုမ္ပဏီ၏အမြတ်အစွန်းများဖြင့်ဒါရိုက်တာများကမှတသည်ဟုယူဆသောအဆိုပါကြားဖြတ်အမြတ်ဝေစုများကိုအခါအားလျော်စွာအဖွဲ့ဝင်များသို့ပေးနိုင်သည်။

၁၀၃။ မည်သည့်အမြတ်ဝေစုကိုမျှထိုနှစ်အမြတ်အစွန်းထဲမှသော်လည်းကောင်း၊ ဖြန့်ဝေပေးပြီးခြင်းမရှိသေးသောမည်သည့်အခြားအမြတ်အစွန်းထဲမှသော်လည်းကောင်းမှတစ်ပါးအခြားနည်းမပေးဝေစေရ။

၁၀၄။ အမြတ်ဝေစုနှင့်စပ်လျဉ်း၍ အထူးအခွင့်အရေးများရှိသည့်အစုရှယ်ယာများကိုရပိုင်ခွင့်ရှိသူများ၏ အထူးအခွင့်အရေးများ (ရှိလျှင်) အဆိုပါတို့နှင့်မဆန့်ကျင်စေဘဲအမြတ်ဝေစုအားလုံးကိုကြေညာရမည့်ပြင်၊ အစုရှယ်ယာများအပေါ်တွင်ပေးသွင်းပြီးဖြစ်သောငွေပမာဏအတိုင်းခွဲဝေပေးရမည်။ သို့သော်မည်သည့်ငွေကြေးမျှကုမ္ပဏီသို့မည်သည့်အစုရှယ်ယာများအပေါ်တွင်မဆိုမပေးသွင်းခဲ့သေးလျှင်၊ ၎င်းမပေးသွင်းသည့်အထိ ၎င်းအမြတ်ဝေစုကိုကြေညာနိုင်သည့်ပြင် အစုရှယ်ယာများ၏ပမာဏအတိုင်းပေးနိုင်သည်။ ကြိုတင်တောင်း

အမြတ်ဝေစု
များပေးခြင်း

ကြားဖြတ်အမြတ်
ဝေစုများပေး
ဝေခြင်း ။

အမြတ်အစွန်း
ဖြင့်သာအမြတ်ဝေ
များ ပေး
ခြင်း ။

အမြတ်ဝေစု
များပေးဝေ
ခြင်း ။

ပေါ်ခြင်းများအတွက် မညီသည့်ပမာဏမျှ ပေးသွင်းခြင်း မရှိသေးသော ရှယ်ယာတစ်စုကိုအတိုး ရရှိနေစဉ်ကာလအတွင်း ဤနည်းမျဉ်း ပါကိစ္စအလို့ငှာ အစုရှယ်ယာများ အပေါ်တွင်ပေးသွင်းပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

**အမြတ်အစွန်းကိုသီးသန့်ရန်ပုံငွေ အဖြစ် ဆောင်ရွက်ခွင့် အာဏာ။**

၁၀၅။ ဒါရိုက်တာများ သည် မညီသည့်အမြတ်ဝေစု ကို မဆို မထောက်ခံမီ ကုမ္ပဏီ၏အမြတ်အစွန်းများ ထဲမှ မိမိတို့သင့်လျော်မည် ထင်မြင်သော ငွေကိုသီးသန့်ရန်ပုံငွေတစ်ရပ် သို့မဟုတ် သီးသန့်ရန်ပုံငွေများ အဖြစ် ဖယ်ထုတ်လျက်အဆိုပါတစ်ခုခုကို ဒါရိုက်တာများ၏ သဘောအတိုင်း မမျှော်လင့်သော အသုံး စရိတ်အတွက်ဖြစ်စေ၊ အမြတ်ဝေစုညီမျှရေး အတွက်ဖြစ်စေ ကုမ္ပဏီ၏အမြတ်အစွန်းကို မှန်ကန်စွာအသုံး ပြုနိုင်သောအခြား မည်သည့်ကြံရွယ်ချက်အတွက် မဆိုဖြစ်စေအသုံး ပြုရမည်။ ထိုသို့ခွဲခြား ဖယ်ထုတ်ထားသော ငွေများကို ဒါရိုက်တာများ သည်အလားတူသဘောအတိုင်း အဆိုပါ ငွေတစ်ရပ်ကိုကုမ္ပဏီ၏လုပ်ငန်း တွင်သုံးစွဲခြင်း သို့မဟုတ် အခါကာလအားလျော်စွာသင့်လျော်သည်ထင်မြင်သော (ကုမ္ပဏီ၏အစုရှယ်ယာများ မှလွှဲ၍) ငွေရင်း မြှုပ်နှံခြင်း လုပ်ငန်း များ တွင် ငွေရင်းမြှုပ်နှံနိုင်သည်။ နှစ်စဉ်အစည်းအဝေး က ဒါရိုက်တာ များ ၏ထောက်ခံချက်ဖြင့်ယင်း အစည်းအဝေး နေ့တွင်မှတ် ပုံတင်ထားပြီး ဖြစ်သောအဖွဲ့ဝင်တို့အား သီးသန့်ငွေထဲမှ မိမိတို့အစု ပါဝင်ထားသော အချိုး အတိုင်း ``ဆု``အစုရှယ်ယာထုတ် ပေး ရန် ဆုံးဖြတ်နိုင်သည်။

**ပူးတွဲပိုင်ဆိုင်သူများ အတွက် အမြတ်ဝေစု များ။**

၁၀၆။ မည်သည့်အစုရှယ်ယာ၏ပူး တွဲပိုင်ဆိုင်သူများအဖြစ်ဖြင့် တစ်ဦး ထက်ပိုသောသူများ ကိုမှတ်ပုံတင်ထား သည်ဖြစ်လျှင်၊ အစုရှယ်ယာများ အပေါ်တွင် ပေး ရမည်ဖြစ်သော မည် သည့် အမြတ်ဝေစုအတွက်မဆိုအကျိုး သက် ရောက် သောလက်ခံ ပြေစာများ ကို အဆိုပါသူတို့အနက်တစ်ဦး ဦး က ပေး နိုင်သည်။

၁၀၇။ ကြေညာခြင်းပြုခဲ့ပြီးနိုင်သောအမြတ်ဝေစုဆိုင်ရာ နှိုင်းတစ်စောကိုနောက်တွင်ဖော်ပြထားသည့်နည်းလမ်းအတိုင်း အစုရှယ်ယာများတွင်ပါရှိသောရပိုင်ခွင့်ရှိသောပုဂ္ဂိုလ်များ ထံသို့ ပေးပို့ရမည်။

အမြတ်ဝေစုဆိုင်ရာ အမြတ်ဝေစု တစ်စော။

၁၀၈။ ကုမ္ပဏီ၏အကျိုးဆန့်ကျင်လျှင်မည်သည့်အမြတ်ဝေစုပေါ်မှ အတိုးပေးရန်တာဝန်မရှိစေရ။

အမြတ်ဝေစုများအတွက်အတိုးပေးရန်တာဝန်မရှိခြင်း။

## အမြတ်များနှင့်သီးသန့်ငွေများကိုမတည်ငွေရင်း အဖြစ်ပြောင်းလဲခြင်း

၁၀၉။ ကုမ္ပဏီ၏သီးသန့်စာရင်း (သတ်မှတ်တန်ဖိုးထက်ပို ရရှိသည့်အစုရှယ်ယာနှင့်မည်သည့်မတည်ငွေရင်းငွေးနှုတ်ရန်အတွက် သီးသန့်ထားရန်ပုံငွေလည်းပါဝင်သည်) နှင့်အမြတ်အရှုံးစာရင်း ၏ရငွေဖက်တွင်စာရင်းသွင်းထားသည့်ငွေ သို့မဟုတ် ဝေ ၄ ရန်အတွက်အခြားနည်းဖြင့်ရရှိရန်ငွေများကိုဒါရိုက်တာများသည် သာမန်ဆုံးဖြတ်ချက်အရ ထောက်ခံလျှင် ကုမ္ပဏီသည်ယင်းငွေများ ကိုမတည်ငွေရင်းအဖြစ်သတ်မှတ်ရန်လိုအပ်သည်ဟုဆုံးဖြတ်နိုင်သည်။ သို့ရာတွင်စုပုံနေသည့်သာ၍ဦးစားပြုသောအမြတ်ဝေစုရရှိ နိုင်သည့်မည်သည့်အစုရှယ်ယာများအတွက်ပေးရန်အစုရှယ်ယာများ အတွက်ငွေများမဟုတ်စေရ။ သို့ဖြစ်၍ ဒါရိုက်တာများသည် မတည်ငွေရင်းအဖြစ်ပြုလုပ်ထားသည့်ငွေများကိုအဖွဲ့ဝင်များ အားပေးရန်သတ်မှတ်ခြင်းပြုလုပ်ရေးအတွက်ခွင့်ပြုချက်ပေးပြီး သွန်ကြားနိုင်သည်။ ထိုသို့ပြုလုပ်ရာတွင်အဖွဲ့ဝင်များအားပေး ရန်အမြတ်ဝေစုများအတိုင်း ဝေပုံကျခွဲဝေပေးရမည့်ငွေများ အတိုင်းဖြစ်ရမည်။ ထို့အပြင်ထိုငွေများကိုအဖွဲ့ဝင်များကလက်တ လောပေးရန်ရှိခဲ့သော်ပေးရန်မပေးချေသေးသည့်အစုရှယ်

အမြတ်နှင့်သီးသန့်ငွေများကိုမတည်ငွေရင်းအဖြစ်လွှဲပြောင်းခြင်း။

ယာအတွက် ၄င်းတို့အကျိုးအတွက် ပေးရန်အတွက်အသုံးပြုနိုင်သည် သို့မဟုတ် ကုမ္ပဏီက မထုတ်ပေးရသေးသည့် အစုရှယ်ယာ သို့မဟုတ် ဝန်ခံစာတမ်းများအတွက်သာမန်ညီမျှသော ငွေပမာဏအတွက် အပြေပေးချေနိုင်သည်။ ယင်းအစုရှယ်ယာနှင့်ဝန်ခံစာတမ်းများအတွက်သတ်မှတ်၍ ဝေငှပြီး အဖွဲ့ဝင်များ အချင်းချင်းအထက် ဖော်ပြပါအတိုင်း တစ်နည်း မဟုတ် တစ်နည်း အပြေပေးအပ်ပြီးဟု ရငွေဖက်တွင် ရေးသွင်းနိုင်သည်။ သို့ရာတွင်သတ်မှတ်တန်ဖိုးထက်ပို ရရှိသည့်အစုရှယ်ယာစာရင်းနှင့်မတည်ငွေရင်း အတွက် သတ်မှတ်ထားသည့်ရန်ပုံငွေကိုအဖွဲ့ဝင်များအား ထုတ်ပေးမည့်၊ မထုတ်ပေးရသေးသောအစုရှယ်ယာများအတွက်အပြည့်ပေးပြီး ရေးအတွက်သာအသုံးပြုနိုင်သည်။

ပေးသူစာရင်း မည်ကဲ့သို့ ကောက်ခံခြင်း။

၁၁၀။ ထိုသို့အထက် ဖော်ပြပါအတိုင်း ဆုံးဖြတ်ချမှတ်သည့်အခါတိုင်းတွင်ထိုငွေများကိုမတည်ငွေရင်းအဖြစ်ပြုလိုက်ကြောင်း ဒါရိုက်တာများက သီးသန့်ထားပြီးကြောင်းနှင့်လုပ်ဆောင်ပြီးကြောင်း ပြုလုပ်ရမည်။ ထို့အပြင်အစုရှယ်ယာများနှင့်ဝန်ခံစာတမ်းများကိုအပြေပေးပြီးကြောင်း ဝေငှထုတ်ပေးရမည်။ ထို့အပြင် ယေဘုယျအားဖြင့်ထိုဆုံးဖြတ်ချက်ကိုထိရောက်စွာဆောင်ရွက်နိုင်စေခြင်း ငှာလိုအပ်သည်များကိုလုပ်ဆောင်ပေးရမည်။ ထိုသို့ဆောင်ရွက်နိုင်ရန် ဒါရိုက်တာများအား တစ်စိတ်တစ်ဒေသထုတ်ပေးခြင်း လက်မှတ် သို့မဟုတ် ငွေသားပေးခြင်း သို့မဟုတ်သင့်တော်သည့်အခြားနည်းဖြင့်အစုရှယ်ယာနှင့်ဝန်ခံလက်မှတ်များအတွက် တစ်စိတ်တစ်ဒေသ ဝေငှပေးခြင်းပြုလုပ်နိုင်ရန်အာဏာကုန် ရရှိသည်။ ထို့အပြင်စိတ်ဝင်စားသောအဖွဲ့ဝင်များ၏ကိုယ်စား အခြားသူတစ်ဦးက မတည်ရင်းနှီးငွေပြုလုပ်ပြောင်းလွှဲသည့်အခါ ရရန်ရှိသောငွေများ ၄င်းတို့အတွက်အပြည့်ပေးပြီးရငွေဖက်တွင် စာရင်းသတ်မှတ်ပေးရေးအတွက် ကတိပဋိညာဉ်ပြုလုပ်နိုင်သည်။

ယင်းကဲ့သို့ပြုလုပ်ပြီး သည့်ပဋိညာဉ်ကို အဖွဲ့ဝင်များ အားလုံး နှင့် သက်ဆိုင်ပြီး အားလုံး အပေါ် ချည်နှောင်သည်။

## ငွေစာရင်းများ

ဒါရိုက်တာများသည် သင့်လျော်ရာ ငွေစာရင်းစာအုပ်များထားရှိရခြင်း ။

၁၁၁။ ဒါရိုက်တာများ သည် အောက်ပါတို့နှင့်စပ်လျဉ်း၍လျော်ကန်သင့်မြတ် သော ငွေစာရင်း စာအုပ်များ ထား ရှိစေရမည်—

(က) ကုမ္ပဏီကရရှိသော ငွေများ အားလုံးနှင့် သုံး စွဲသည့် ငွေများ အား လုံး ၊ ထိုအပြင် ရရှိခြင်း နှင့်သုံး စွဲခြင်း အတွက် ဖြစ်ပေါ် လာသည့်နှင့်စပ်လျဉ်း သည့်ကိစ္စရပ်များအား လုံး ၊

(ခ) ကုမ္ပဏီကကုန်ပစ္စည်း များ ရောင်းခြင်းနှင့် ဝယ်ခြင်း အား လုံး ၊

(ဂ) ကုမ္ပဏီပိုင်ပစ္စည်း များ နှင့် ကြွေးမြီတာဝန် များ ။

ငွေစာရင်းစာအုပ်များကို ဒါရိုက်တာများက စစ်ဆေးခြင်း ။

၁၁၂။ ငွေစာရင်း စာအုပ်များ ကိုကုမ္ပဏီ၏မှတ်ပုံတင် ရုံး တွင်ဖြစ်စေ၊ ဒါရိုက်တာများ ကသင့် လျော်သည်ဟုထင်မြင် ယူဆ သောအခြား နေရာတွင်ဖြစ် စေထား ရှိ၍အလုပ်ချိန် အတွင်း ဒါရိုက်တာများ စစ် ဆေး ကြည့်ရှုနိုင်ရန်အတွက်အသင့် ရှိ နေ ရ မည်။

ငွေစာရင်းစာအုပ်များကိုအဖွဲ့ဝင်များကစစ်ဆေးခြင်း ။

၁၁၃။ ဒါရိုက်တာများ သည်မည် ၍မည် မျှအထိလည်းကောင်း၊ မည်သည့်အချိန်နှင့် နေရာတွင်မည်သည့်စည်း ကမ်း ချက် များ သို့မဟုတ် စည်းမျဉ်း များ အရလည်း ကောင်း ကုမ္ပဏီ၏ ငွေ စာ ရင်း များ နှင့်စာအုပ်များ ကို သို့မဟုတ် အဆိုပါတို့အနက်တစ်ခု ခုကို ဒါရိုက်တာများ မဟုတ်သည့်အဖွဲ့ဝင်များ ကစစ် ဆေး ကြည့် ရ

နိုင်ခွင့်ရှိစေရမည်ဟုအချိန်ကာလအား လျော်စွာသတ်မှတ်ရမည်။ ထို့ပြင် (ဒါရိုက်တာမဟုတ်သော) မည်သည့်အဖွဲ့ဝင်မှ ကုမ္ပဏီ၏ ငွေစာရင်း တစ်ခုခုကိုဖြစ်စေ၊ စာအုပ်တစ်ခုခုကို ဖြစ်စေ၊ စာတမ်း အမှတ်အသား တစ်ခုခုကိုဖြစ်စေ၊ ဥပဒေက ခွင့် ပြုထား သည့်အတိုင်း မှတစ်ပါး သို့မဟုတ် ဒါရိုက်တာများ က သော်လည်း ကောင်း၊ အထွေထွေအစည်း အဝေး တွင်ကုမ္ပဏီ က သော်လည်း ကောင်း အခွင့်အာဏာ ပေး ထား သည့်အတိုင်းမှတစ် ပါး စစ်ဆေး ကြည့်ရှုနိုင်ခွင့်မရှိ စေရ။

၁၁၄။ ဒါရိုက်တာများ သည်မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၃၁ နှင့် ၁၃၁ က အရ လိုအပ်သည့် အရှုံးအမြတ်စာရင်း များ ကိုလည်း ကောင်း၊ လက်ကျန်ငွေ စာရင်း ရှင်းတမ်း များ ကိုလည်း ကောင်း၊ အစီရင်ခံစာ များ ကိုလည်း ကောင်း အခါကာလအား လျော်စွာပြုစု၍ယင်း ပုဒ်မများ တွင် ရည်ညွှန်း ထား သည့်အတိုင်း အထွေထွေအစည်း အဝေးကြီး တွင် ကုမ္ပဏီ၏ ရှေ့မှောက်သို့တင်ပြ စေရမည်။ ငွေစာရင်း ရှင်းတမ်းများ တင်ပြခြင်း ။

၁၁၅။ ကုမ္ပဏီသည်တိုက်ရိုက် သော်လည်း ကောင်း၊ ကိုယ်စားပြုသူမှတစ်ဆင့် သော်လည်း ကောင်း ဆင့်ပွား ထောက်မထားသော ကုမ္ပဏီတွင် (၅၁%) သို့မဟုတ် ထိုထက်ပို သောအစုရှယ်ယာပိုင်လျှင်၊ ဒါရိုက်တာများ သည်ပုဒ်မ ၁၁၈ ပုဒ်မခွဲ(က) ပါ ပြဌာန်း ချက်များ ကိုအပြည့်အဝလိုက်နာရမည့်အပြင် အောက် ဖော် ပြ ပါ သီး ခြား ကုမ္ပဏီ သို့မဟုတ် ၎င်း၏ဆင့်ပွား ထောက် မ ထား သောကုမ္ပဏီ (ကုမ္ပဏီများ) ၏အပြီး သတ်စာရင်း ချုပ်ကိုပါတင်ပြ ရမည်- ငွေစာရင်း ရှင်းတမ်းသည် ဆင့်ပွားထောက်မ ကုမ္ပဏီများနှင့် ပတ်သက် သည့် အချက်အလက် ပါရှိခြင်း ။

(က) ကုမ္ပဏီနှင့်၎င်း၏အား လုံး သောဆင့်ပွား ထောက်မထား သောကုမ္ပဏီများ၏ စုပေါင်း

ငွေစာရင်း ရှင်းတမ်း ၊ ယင်း စာရင်း
ကို ``အဖွဲ့၏စာရင်း ``ဟု ခေါ်တွင်ရမည်။

(ခ) ကုမ္ပဏီနှင့်ငှင်း၏ဆင့်ပွားထောက်မ ကုမ္ပဏီ (ကုမ္ပဏီများ )၏ရှုံးပေါင်း အရှုံးအမြတ် စာရင်း နှင့်

(ဂ) အခြားကိုအဝ်မည့်ဖော်ပြချက်များ ။

၁၁၆။ အရှုံးအမြတ်စာရင်း သည်မြန်မာနိုင်ငံကုမ္ပဏီ များ အက်ဥပဒေပုဒ်မ ၁၃၂ ၊ ပုဒ်မခွဲ(၃)၌ ဖော်ပြထားသော အကြောင်းအရာများ အတိုင်း ဖြစ်ရေမည့်ပြင်၊ အသင့်လျော်ဆုံး ခေါင်းစဉ်များ အောက်တွင်စီစဉ်၍အကြမ်း ဝင်ငွေ ပမာဏ နှင့်ရရှိသောအရင်းအမြစ်များ ကိုခွဲခြား ဖော်ပြလျက် လည်းကောင်း ၊ အကြမ်း အသုံး စရိတ်ပမာဏတို့အား တည်ထောင်ခြင်းဆိုင်ရာ၊ လစာဆိုင်ရာ စသောအလားတူကိစ္စရပ်များဆိုင်ရာ တို့ကိုအီးခြား ခွဲခြား လျက်လည်း ကောင်း ဖော် ပြ ရ မည် ။ တစ်နှစ်တာအတွက်အမြတ်နှင့်အရှုံး ငွေစာရင်း များ တိုအ စည်းအဝေး တွင်မှတစ္ဆာပြသနိုင် စေရန်အတွက်တိုတစ်နှစ်တာဝင်ငွေထဲမှ လျော်ကန်သင့်မြတ်စွာသုံး စွဲသင့်သောစရိတ်ငွေ အကြောင်း အချက်တိုင်း ကို ငွေစာရင်း တွင် ရေး သွင်း ဖော်ပြထား ရမည်။ ထို့ပြင် လျော်ကန်သင့်မြတ်မှုအတိုင်းသာနှစ်အတော်အတန် ရ ရှိ သော နှစ်စဉ်ဝင်ငွေများ မှနှစ်စဉ်ခွဲဝေထမ်း ဆောင်သင့် သော စရိတ်ငွေများ ကိုတစ်နှစ်တည်း အတွင်း အသုံး ပြုခဲ့လျှင်ယင်း တဲ့သို့ သုံး စွဲ သော ငွေပမာဏအပြည့်အဝကို ဖော်ပြရမည်။ ယင်း နှင့် ပူး တွဲ၍မည်သည့်အကြောင်း အချက်များ ကြောင့်တိုနှစ်၏ဝင် ငွေ မှအသုံး စရိတ်တစ်စိတ်တစ် ဒေသကိုသာထမ်း ဆောင်ထား သည် ကို ရှင်း လင်း ဖော်ပြထား ရမည်။

အရှုံးအမြတ် စာရင်း ။

**လက်ကျန်ရှင်းတမ်းနှင့်ဒါရိုက်တာများ၏အစီရင်ခံစာ။**

၁၁၇။ ငွေစာရင်းရှင်းတမ်းကိုနှစ်စဉ်ရေးသွင်းလျှက်ကုမ္ပဏီ၏အထွေထွေအစည်းအဝေးသို့တင်သွင်းပြသရမည့်ပြင်၊ ထိုငွေစာရင်းရှင်းတမ်းသည်အဆိုပါအစည်းအဝေးကျင်းပမည့်နေ့မှခြောက်လထက်မစောသောကာလအထိဖြစ်စေရမည်။ ငွေစာရင်းရှင်းတမ်းနှင့်ပူးတွဲလျှက်ဒါရိုက်တာများ၏ကုမ္ပဏီနှင့်စပ်လျဉ်းသောအရေးကိစ္စများကိုဖော်ပြရန်အစီရင်ခံစာ၊ အမြတ်ဝေစုခွဲဝေပေးစေရန်ထောက်ခံတင်ပြသောငွေပမာဏနှင့်သီးသန့်ရန်ပုံငွေတစ်ရပ်သို့သယ်ဆောင်ရန်ငွေပမာဏ(ရှိလျှင်)အတွက်အဆိုပြုချက်တို့ပါရှိရမည်။

**အဖွဲ့ဝင်များထံပေးပို့ရမည့်ငွေစာရင်းများမိတ္တူ။**

၁၁၈။ ငွေစာရင်းရှင်းတမ်းနှင့်အစီရင်ခံစာတို့၏မိတ္တူတစ်စောင်ကိုအစည်းအဝေးမကျင်းပမီခုနှစ်ရက်စောဍ၍အထွေထွေအစည်းအဝေးများတက်ရောက်ရန်နို့တစ်စာရထိုက်ခွင့်ရှိသူတိုင်းသို့နောက်တွင်ဖော်ပြထားသောနို့တစ်စာချအပ်ရမည့်နည်းလမ်းများအတိုင်းပေးပို့ရမည်။

**မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပါသက်ဆိုင်သောပြဋ္ဌာန်းချက်များနှင့်အညီလိုက်နာဆောင်ရွက်ခြင်း။**

၁၁၉။ ဒါရိုက်တာများသည်ကိစ္စအားလုံးဆောင်ရွက်ရာ၌မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၁၃၀မှ ၁၃၅ ထိတို့ပါပြဋ္ဌာန်းချက်များနှင့်အညီဖြစ်စေ၊ အချိန်ကာလအလိုက်အာဏာသက်ရောက်လျှက်ရှိသောမည်သည့်ပြုပြင်ပြောင်းလဲပြဋ္ဌာန်းချက်များနှင့်အညီဖြစ်စေလိုက်နာရမည်။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၃၂ အရပြုစုရသည့်အဖွဲ့ဝင်နှစ်စဉ်စာရင်းမိတ္တူနှင့်တချိန်တည်း၌ကုမ္ပဏီ၏နှစ်ပတ်လည်အထွေထွေအစည်းအဝေးကအတည်ပြုပြီးဖြစ်သည့်လက်ကျန်ရှင်းတမ်းနှင့်အရှုံးအမြတ်စာရင်းမိတ္တူတစ်စောင်ကိုမှတ်ပုံတင်အရာရှိထံတွင်မှတ်ပုံတင်ရမည်။ (ပုဒ်မ ၁၃၄ )

## စာရင်းစစ်ဆေးခြင်း

**စာရင်းစစ်များခန့်ထားခြင်း။**

၁၂၀။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၁၄၄၊ ၁၄၅ နှင့် ၁၄၅ က သို့မဟုတ်အချိန်ကာလအလိုက်အာဏာသက်ရောက်လျှက်ရှိသောပြုပြင်ပြောင်းလဲပြဋ္ဌာန်းချက်နှင့်အညီစာရင်းစစ်များကိုခန့်ထားရမည့်အပြင်၎င်းတို့၏တာဝန်များကိုသတ်မှတ်ထားရမည်။

အထွေထွေအစည်းအဝေးများသို့ စာရင်းစစ်များတက်ခွင့်ရှိခြင်း အစရှိသည်တို့။

၁၂၁။ စာရင်းစစ်များသည်အထွေထွေအစည်းအဝေးနှင့်ပတ်သက်၍အခြားအဖွဲ့ဝင်များ ရသင့်ရထိုက်သည့် နို့တစ်စာများ နှင့်အခြား ဆက်သွယ်မှုများ မရှိပြီး ၊ မည်သည့် အထွေထွေအစည်းအဝေး ကိုမဆိုတက်ခွင့်ရှိ စေရမည်။

## နို့တစ်စာ များ

နို့တစ်စာများပေးပို့ခြင်း ။

၁၂၂။ (၁) နို့တစ်စာတစ်စောင်ကိုကုမ္ပဏီကမည်သည့်အဖွဲ့ဝင်ထံသို့မဆိုလူပုဂ္ဂိုလ်အားဖြင့်ဖြစ်စေ၊ ထိုသူ၏ကုမ္ပဏီတွင်မှတ်ပုံတင်ထားသောလိပ်စာသို့စာတိုက်မှတစ်ဆင့်ပေးပို့ခြင်းဖြင့်ဖြစ်စေ ပေးပို့နိုင်သည် ။ သို့မဟုတ်(ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မှတ်ပုံတင် လိပ်စာ မရှိလျှင်) ထိုသို့နို့တစ်စာချအပ်ရန် အလို့ငှာ ပေးထားသောပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း လိပ်စာရှိလျှင်ယင်းလိပ်စာသို့ ပေးပို့နိုင်သည်။

မည်သည့်အခါ ပေးပို့ခြင်းပြီးမြောက်သည်။

(၂) နို့တစ်စာကိုစာတိုက်မှတစ်ဆင့်ပေးပို့သည့်အခါနို့တစ်စာတစ်စောင်ကိုလိပ်စာမှန်ကန်စွာတပ်၍စာတိုက်ခအပြည့်အဝကြိုတင်ပေးဆောင်ပြီး စာတိုက်သို့ပေးပို့ပြီးခြင်းသည် တစ်ဘက်မှဆန့်ကျင်၍သက်သေထူနိုင်ခြင်းမရှိလျှင်ထိုလိပ်စာရှင်သည်စာတိုက်၏ သာမန်လုပ်ငန်းဆောင်တာအားဖြင့်ရသင့်ရထိုက်သောနေ့တွင်နို့တစ်စာကိုလက်ခံရရှိပြီးဖြစ်သည်ဟုမှတ်ယူရမည်။

၁၂၃။ အကယ်၍အဖွဲ့ဝင်တစ်ဦး သည်ပြည်ထောင်စု မြန်မာနိုင်ငံ တော်အတွင်း မှတ်ပုံတင် သောလိပ်စာလည်း မရှိသည့်ပြင် ၊ နို့တစ်စာချအဝ်ရန် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း လိပ်စာကိုလည်း ကုမ္ပဏီသို့တင်သွင်း ထား ခြင်း မရှိလျှင် ကုမ္ပဏီ ၏ မှတ်ပုံတင်ရုံး တည်ရှိရာ ဒေသတွင်ထုတ် ဝေလျက်ရှိ သောသတင်းစာ တစ်စောင်တွင်ထိုသူ၏အမည်နာမ်ဖြင့်နို့တစ်စာ ကြေညာ လိုက် ခြင်း သည်သတင်း စာတွင်ထို ကြော်ငြာပါလာသည့် နေ့တွင် ထို သူ့သို့ နို့တစ်စာချအဝ်ပြီး ဖြစ်သည်ဟုမှတ်ယူ စေရမည်။

ပြည်ပနေအဖွဲ့ဝင် များ ထံ ကြော်ငြာစာ တည့်ခြင်း ဖြင့် ပေး ပို့ နိုင် ခြင်း ။

၁၂၄။ အစုရှယ်ယာတစ်စုကိုပူး တွဲပိုင်ဆိုင်သူများ သို့ကုမ္ပဏီက နို့တစ်စာချအဝ်ရာ၌ကုမ္ပဏီ၏ မှတ်ပုံတင်စာအုပ်တွင်ယင်း အစု ရှယ်ယာနှင့်စပ်လျဉ်း၍ထိပ်ဆုံး မှအမည် ဖော်ပြပါရှိသူ ပူး တွဲ ပိုင်ရှင်အား နို့တစ်စာ ပေး ပို့ခြင်း ဖြင့်ပြုလုပ်နိုင်သည်။

ပူးတွဲပိုင် ရှင် များနှင့်ပတ်သက် ၍ နို့တစ်စာပေး ပို့ခြင်း ။

၁၂၅။ ကုမ္ပဏီမှ နို့တစ်စာချအဝ်ရာတွင် အဖွဲ့ဝင်တစ်ဦး ကွယ်လွန်ခြင်း သို့မဟုတ် လူမွဲဖြစ်ခြင်း ကြောင့်ပိုင်ဆိုင် ခွင့်ရှိ လာသူများ သို့လိပ်မူ၍ စာတိုက်ခကြိုတင် ပေး ချေပြီး စာ တိုက် မှ တစ်ဆင့် ပေး ပို့ခြင်း ဖြင့်ဖြစ် စေ၊ အဆိုပါကွယ်လွန်ခြင်း သို့မဟုတ် လူမွဲဖြစ်ခြင်း ကိုအ ကြောင်း ပြု၍ ပိုင်ဆိုင်မှုကိုကိုယ်စား ပြု မည့် ကိုယ်စား လှယ်များ ထံသို့ဖြစ် စေ ဖော်ပြပါအ ကြောင်း ချင်း ရာ များ နှင့်အလား တူတို့ကယင်း ကိစ္စအလို့ငှာထိုသို့ ပိုင် ဆိုင် မှု ရှိ ကြောင်း အ ကြောင်း ကြား ပေး ပို့ထား သော ပုဂ္ဂိုလ်များ ၏ မြန်မာနိုင်ငံအတွင်း ရှိလိပ်စာ ( ရှိလျှင် ) ထံသို့ဖြစ် စေ ( အ ဆို ပါ လိပ်စာ ပေး ပို့လာပြီး သည့်တိုင် ) ကွယ်လွန်ခြင်း သို့မဟုတ် လူမွဲ ကြေညာခြင်း မခံရဘဲသကဲ့သို့ပင် နို့တစ်စာချအဝ်ရမည့် နည်း လမ်း အတိုင်း နို့တစ်စာကိုကုမ္ပဏီက ပေး ပို့နိုင်သည်။

အဖွဲ့ဝင်တစ်ဦး ကွယ်လွန်ခြင်း သို့မဟုတ်လူမွဲ ဖြစ်ခြင်းများ ဖြစ် ပေါ် ပြီး နောက်နို့ တစ် စာ ပေး ပို့ ခြင်း ။

**အထွေထွေ အစည်းအဝေး အတွက် နို့တစ်စာ။**

၁၂၆။ အထွေထွေအစည်းအဝေးတိုင်း အတွက်နို့တစ်စာများကို အထက်တွင် ဖော်ပြပြီး လုပ်ထုံးလုပ်နည်းများတ အာဏာ အပ်နှင်းထားသည့်အတိုင်း ချအပ်ရမည်။ (က) နို့တစ်စာချအပ်ရန် အလို့ငှာ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ၌လိပ်စာကို တင်သွင်းခြင်း မရှိသေးသောအဖွဲ့ဝင်များ (ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မှတ်ပုံတင်ပြီး လိပ်စာမရှိသူ) မှ တစ်ပါး ကျန်အဖွဲ့ဝင်တိုင်းကို နို့တစ်စာချအပ်ရမည်။ (ခ) အဖွဲ့ဝင် တစ်ဦး ကွယ်လွန်ခြင်း သို့မဟုတ်လူမွဲသည်ဟုမှတ်ခံရခြင်း ကြောင့်အစုရှယ်ယာအပေါ် ပိုင်ဆိုင်ခွင့်ရှိလာသူပုဂ္ဂိုလ်တိုင်း ထံသို့လည်း ပေးပို့ရမည်။ သို့သော် ထိုသို့ကွယ်လွန်ခြင်း သို့မဟုတ် လူမွဲ ဖြစ်ခြင်း သည်အကျုံးဝင်အတည်ပြုပြီး မှသာလျှင်ယင်း ပုဂ္ဂိုလ်များ သည်အစည်း အဝေး နို့တစ်စာရခွင့်ရှိစေရမည်။ အခြားမည်သည့် ပုဂ္ဂိုလ် တစ်ဦး တစ်ယောက်မျှအထွေထွေအစည်းအဝေးများ၏နို့တစ်စာ များကိုလက်ခံရယူပိုင်ခွင့်မရှိစေရ။

အောက်တွင်ပါရှိသည့်အမည်များ ၊ လိပ်စာများ နှင့်အကြောင်း အရာများ ဖော်ပြထား သောကျွန်ုပ်တို့သည်အသင်း အဖွဲ့မှတ်တမ်း နှင့်စည်း မျဉ်း အတိုင်း အစု ရှယ်ယာများ ဖြင့်ကန့်သတ်ထား သောအများ နှင့်သက်ဆိုင်သည့်ကုမ္ပဏီကိုဖွဲ့စည်း ရန်လိုလား ကြောင်း နှင့်ကျွန်ုပ်တို့၏အမည်များ နှင့်ယှဉ်တွဲ၍ ဖော်ပြထား သည့်ကုမ္ပဏီ၏ အမည်၊ ငွေရင်း တွင်အစုရှယ်ယာများ ရယူလိုကြောင်း အသီး သီး သဘော တူကြ ပါသည်။

| အမှတ်စဉ် | အစုရှယ်ယာဝင်များ၏ အမည်များ လိပ်စာများ နှင့်အကြောင်းအရာ | နိုင်ငံသား | အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| | ``က`` အစုရှယ်ယာ | | | |
| ၁ | ပန္နည်းဝယ်ယူမှုသုန်ကြား ရေးမှူး ရုံး<br>ကာကွယ် ရေး ဝန်ကြီး ဌာန<br>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ<br>မော်ကွန်း တိုက်လမ်း ၊ ရန်ကုန်မြို့။ | မြန်မာ | တစ်စု | |
| | ကိုယ်စား ပြုသူ | | | |
| | အမည် – ဗိုလ်မှူးကြီး ဒေါ်ဒို၊ အောင်ဘယ် (လ်)<br>ဦး သောင်းသွန်ကြား ရေး မှူး<br>ပန္နည်းဝယ်ယူမှုသုန်ကြား ရေးမှူးရုံး<br>လိပ်စာ – မော်ကွန်း တိုက်လမ်း<br>ဒဂုံစာတိုက်၊ ရန်ကုန်မြို့။ | မြန်မာ | – | |
| | အမည် – ဦး ဝင်း နိုင်<br>အထွေထွေမန်နေဂျာ<br>ပန္နည်းဝယ်ယူမှုသုန်ကြား ရေးမှူးရုံး<br>လိပ်စာ – မော်ကွန်း တိုက်လမ်း<br>ဒဂုံစာတိုက်၊ ရန်ကုန်မြို့။ | မြန်မာ | – | |

| အမှတ်စဉ် | အစုရှယ်ယာဝင်များ၏ အမည်များ လိပ်စာများ နှင့် အကြောင်းအရာ | နိုင်ငံသား | အစုရှယ်ယာဦးရေ | ထိုးမြဲလက်မှတ် |
| --- | --- | --- | --- | --- |
| | အမည်-ဦးမြင့်ဆွေ<br>ဒုတိယအထွေထွေမန်နေဂျာ<br>(ဝယ်ယူရေး)<br>ပစ္စည်းဝယ်ယူမှုညွှန်ကြားရေးမှူးရုံး<br>လိပ်စာ-မော်ကွန်းတိုက်လမ်း<br>ဒဂုံစာတိုက်၊ ရန်ကုန်မြို့။ | မြန်မာ | - | |
| | <u>"ခ" အစုရှယ်ယာ</u><br><u>တပ်မတော်စစ်မှုထမ်း</u> | | | |
| ၂ | အမည်-ဗိုလ်မှူးကြီး သန်းဦး<br>ရာထူးအဆင့်-စစ်ဥပဒေချုပ်<br>ဌာန-စစ်ဥပဒေချုပ်ရုံး<br>လိပ်စာ-ကာကွယ်ရေးဝန်ကြီးဌာန<br>ရန်ကုန်မြို့။ | မြန်မာ | တစ်စု | |
| ၃ | အမည်-ဗိုလ်မှူးကြီး ကျော်တင့်<br>ရာထူးအဆင့်- တွဲဘက် စစ်ထောက်ချုပ်<br>ဌာန-စစ်ထောက်ချုပ်ရုံး<br>လိပ်စာ-ကာကွယ်ရေးဝန်ကြီးဌာန<br>ရန်ကုန်မြို့။ | မြန်မာ | တစ်စု | |
| ၄ | အမည်-ဗိုလ်မှူးကြီး မင်းသိမ်း<br>ရာထူးအဆင့်- တွဲဘက်စစ်ရေးချုပ်<br>ဌာန-စစ်ရေးချုပ်ရုံး<br>လိပ်စာ-ကာကွယ်ရေးဝန်ကြီးဌာန<br>ရန်ကုန်မြို့။ | မြန်မာ | တစ်စု | |

| အမှတ်စဉ် | အစုရှယ်ယာဝင်များ၏ အမည်များ လိပ်စာများ နှင့်အကြောင်းအရာ | နိုင်ငံသား | အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| | <u>တပ်မတော်တပ်ရင်းများ</u><br><u>အသင်းအဖွဲ့(အသင်းအဖွဲ့များ)သို့မဟုတ်</u><br><u>တပ်မတော်အဖွဲ့အစည်း တစ်ခုခု</u> | | | |
| ၅ | အမည်-ရန်ကုန်တိုင်း စစ်ဌာနချုပ်<br>လိပ်စာ-ကုန်းမြင့်သာ<br>ရန်ကုန်မြို့။ | မြန်မာ | တစ်စု | |
| | <u>ကိုယ်စားပြုသူ</u><br>အမည်-ဗိုလ်မှူး ချစ်မြိုး သွန့်<br>ရာထူးအဆင့်-တိုင်းမှူး<br>တပ်ရင်း/ဌာန-ရန်ကုန်တိုင်း စစ်ဌာနချုပ်<br>လိပ်စာ-ကုန်းမြင့်သာ<br>ရန်ကုန်မြို့။ | မြန်မာ | - | |
| ၆ | အမည်-အလယ်ပိုင်းတိုင်းစစ်ဌာနချုပ်<br>လိပ်စာ-အလယ်ပိုင်းတိုင်းစစ်ဌာနချုပ်<br>ဌာနချုပ်ရုံး၊ တောင်ငူမြို့။ | မြန်မာ | တစ်စု | |
| | <u>ကိုယ်စားပြုသူ</u><br>အမည်-ဗိုလ်မှူး ချစ်အေး ဆောင်<br>ရာထူးအဆင့်-တိုင်းမှူး<br>တပ်ရင်း/ဌာန-အလယ်ပိုင်း တိုင်း စစ်ဌာနချုပ်<br>လိပ်စာ-အလယ်ပိုင်းတိုင်းစစ်ဌာနချုပ်<br>ဌာနချုပ်ရုံး ၊ တောင်ငူမြို့။ | မြန်မာ | - | |

| အမှတ်စဉ် | အစုရှယ်ယာဝင်များ၏ အမည်များ လိပ်စာများနှင့် အကြောင်းအရာ | နိုင်ငံသား | အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| | အမည် – ဒုတိယဗိုလ်မှူးကြီး ဦးသောင်း (အငြိမ်းစား)<br>ရာထူးအဆင့် – ဒုတိယဗိုလ်မှူးကြီး (အငြိမ်းစား)<br>လိပ်စာ – သတ္တုတွင်းဝန်ကြီးဌာန ရန်ကုန်မြို့ ။ | မြန်မာ | ကစ်ရ | |
| | အမည် – ဗိုလ်မှူးကြီး မောင်မောင် (အငြိမ်းစား)<br>ရာထူးအဆင့် – ဗိုလ်မှူးကြီး (အငြိမ်းစား)<br>လိပ်စာ – ကုန်သွယ်ရေးဝန်ကြီးဌာန ရန်ကုန်မြို့။ | မြန်မာ | – | |

နေ့စွဲ ၊ ၁၉၉၀ ပြည့်နှစ် ဖေဖော်ဝါရီလ ၁၉ ရက်

အထက်ပါထိုးမြဲလက်မှတ်များ မှန်ကန်ကြောင်း အသိသက်သေ။

ဦးလှထွန်း
မှတ်ပုံတင်စာရင်းကိုင်၊ စာရင်းစစ်နှင့်
ဘဏ္ဍာရေးအတိုင်ပင်ခံ
၁၃/၁၁ မဟာဗန္ဓုလပန်းခြံလမ်း
ရန်ကုန်မြို့ ။

ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန်

ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# ပြည်ထောင်စုမြန်မာနိုင်ငံစီးပွားရေးဦးပိုင်လီမိတက်

♥ ♥ ♥ ♥ ♥ ♥ ♥ ♥ ♥ ♥ ♥ ♥ ♥ ♥ ♥

PROPOSAL OF THE INVESTOR TO MAKE

MYANMAR CITIZENS INVESTMENT IN THE

UNION OF MYANMAR

**THE UNION 0F MYANMAR ECONOMIC HOLDINGS LIMITED.**